အသင်တို့သည်အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ
မျှော်လင့်ချက်မကင်းမဲ့ကြကုန်နှင့်။(ကုရ်အာန် ၃၉း၅၃)

# ကိုရ်ရှ်နာဗိုင်းရပ်စ်

## အစ္စလာမ့်သွန်သင်မှုများနှင့် ခေတ်သစ်မတ်စ်အလဟ်များ

### ပထမပိုင်း

- ကိုရိုနာဗိုင်းရပ်စ်
- နမားဇ်
- ဂျုမုအဟ်
- ဇကာသ်
- ဂျနာဇဟ်
- အထွေထွေပညတ်ချက်များ
- တောင်းဆုတော်များ


စုစည်းတင်ပြသူ
မုဖ်သီ အုဆ်မာန်ဂနီ (ကမာရွတ်)
ဘွဲ့ရ ဂျာမေအဟ် ဒါရူလ်အုလူးမ် (ကရာချိ)
ကျောင်းဆရာ မဒ်ရစဟ် ယူစွဖ်အဟ်မဒ် (မာမ်ဆား)
ကျောက်မြောင်း။

{قُلْ يَا عِبَادِيَ الَّذِينَ أَسْرَفُوا عَلَى أَنْفُسِهِمْ لَا تَقْنَطُوا مِنْ رَحْمَةِ اللَّهِ إِنَّ اللَّهَ يَغْفِرُ الذُّنُوبَ جَمِيعًا إِنَّهُ هُوَ الْغَفُورُ الرَّحِيمُ * الزمر[39|53]

39|53|(အို-နဗီတမန်တော်)အသင်သည် (ငါအရှင်မြတ်၏ကိုယ်စား)ပြောကြားပါလေ။အို-မိမိတို့အပေါ်၌အလွန်အမင်း လွန်ကျူးခဲ့ကြကုန်သော ငါအရှင်မြတ်၏ကျွန်အပေါင်းတို့၊အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်မှ မျှော်လင့်ချက် မကင်းမဲ့ကြကုန်လင့်။ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုအလုံးစုံတို့ကို ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပေမည်။စင်စစ်ဧကန် ထိုအရှင်မြတ်သည်ပင် အလွန်တရာခွင့်လွှတ်ချမ်းသာပေးသနားတော်မူသော အရှင်အလွန်တရာသနားကြင်နာညှာတာတော်မူသော အရှင်ဖြစ်တော်မူ၏။

# မာတိကာ

بسم الله الرحمن الرحيم

# စုစည်းတင်ပြသူ၏အမှာစာ

الحمدلله رب العالمين والعاقبة للمتقين والصلاة والسلام علي رسوله النبي الكريم،أمابعد.

وَإِذَا مَرِضْتُ فَهُوَ يَشْفِينِ(80/26)

အဓိပ္ပါယ်။26|80|ထိုမှတစ်ပါး ငါသည်ဖျားနာသောအခါ ထိုအရှင်မြတ်သည် ပင်လျှင် ငါ့အား (ဝေဒနာ)ပျောက်ကင်းစေတော်မူ၏။)

ဤလောကစကြာဝဠာ တည်ရှိနေသ၍ အလ္လာဟ်အရှင်မြတ်သည် မကောင်းမှုဒုစာရိုက် ကျူးလွန်သော ကျေးကျွန်များအား သတိပေးရန်၊ မွန်မြတ်သူများအပေါ် မိမိ၏ ကရုဏာတော် သက်ရောက်စေရန် ဘေးဗလာများ စေလွှတ်နေမည်ဖြစ်သည်။

ထိုအချင်းရာနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် အလ္လာဟ် အရှင်မြတ် အမိန့်ရှိသည်မှာ

وَلَنَبْلُوَنَّكُمْ بِشَيْءٍ مِّنَ الْخَوْفِ وَالْجُوْعِ وَنَقْصٍ مِّنَ الْاَمْوَالِ وَالْاَنْفُسِ وَالثَّمَرٰتِ وَبَشِّرِ الصّٰبِرِيْنَ ٥الَّذِيْنَ اِذَآ اَصَابَتْهُمْ مُّصِيْبَةٌ قَالُوْآ اِنَّا لله وَاِنَّآ اِلَيْهِ رٰجِعُوْنَ)٥البقرة،(155-156 /2

အဓိပ္ပါယ်။2|155|ထို့ပြင် (အို-မုအ်မင်န်အပေါင်းတို့)မုချဧကန် ငါအရှင်မြတ်သည် အသင်တို့ ကိုတစ်စုံတစ်ခုသော ကြောက်ရွံ့စိုးရိမ်စေခြင်းဖြင့်သော်လည်းကောင်း၊ ငတ်မွတ် စေခြင်းအားဖြင့်သော်လည်းကောင်း၊ဥစ္စာပစ္စည်းများ ဆုံးပါးစေခြင်းဖြင့်သော် လည်းကောင်း၊အသက်သေကြေပျက်စီးစေခြင်းဖြင့်သော်လည်းကောင်း၊ ကောက်ပဲသီးနှံများ ပျက်ပြားစေခြင်းဖြင့် သော်လည်းကောင်း၊[(တနည်း)သားသမီးများ သေဆုံးစေခြင်းဖြင့်သော်လည်းကောင်း၊]စမ်းသပ်တော်မူလတ္တံ့။သို့ရာတွင် (ထိုကဲ့သို့စမ်းသပ်သော ဘေးအန္တရာယ်များကို) ခန္တီတရားဖြင့် သည်းခံသူ အပေါင်းအား ဝမ်းမြောက်ဘွယ်ရာ ကောင်းချီး မင်္ဂလာသတင်းကို [အို-နဗီတမန်တော်မုဟမ္မဒ်(ဆွ)] အသင်သည် ပြောကြားပါလေ။

အဓိပ္ပါယ်။ 2|156|ထိုသူတို့သည်မိမိတို့အပေါ်၌ ဘေးဥပဒ်အန္တရာယ် တစ်စုံတစ်ရာ ဆိုက်ရောက် လာသောအခါ ဧကန်အမှန် အကျွန်ုပ်တို့သည် အလ္လာဟ်အရှင် မြတ်၏ အဖို့အရာသာဖြစ်၍ မုချဧကန် ထိုအရှင်မြတ်၏ အထံတော်သို့သာ ပြန်လည်သွားကြရမည့်သူများ ဖြစ်ကြပါသည်ဟု ဆိုလေ့ရှိကြကုန်၏။)

မုတ်စ်လင်မ် တစ်ဦးသည် ဘေးဗလာကျရောက်ချိန်တွင် အလ္လာဟ် အရှင် မြတ်၏ ကျေနပ်နှစ်သက်မှုနှင့် အကျိုးကုသိုလ်အားမျှော်ကိုးကာ ကျရောက်လာသော ဘေးဗလာများအပေါ် ခန္တီတရားထားမည် ဆိုပါက ထိုသူသည် ဆွာဗေရီန် (ခန္တီတရားထားရှိသူများ)၏ စာရင်းတွင် ဝင်သွားပေသည်။

ဆွဗရ်(ခန္တီတရား)၏ အကျိုးကျေးဇူးသည် အလွန်ပင်ကြီးမားလှ ပေသည်။ ကုရ်အာန်ကျမ်းမြတ်တွင် အလ္လာဟ်အရှင်မြတ် အမိန့်ရှိသည်မှာ

إِنَّ اللَّهَ مَعَ الصَّابِرِينَ(153/2)

အဓိပ္ပါယ်။ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ခန္တီတရားထားရှိသော သူတို့နှင့် အတူတကွ(အမြဲ)ရှိတော်မူလေသတည်း။)

နောက်တစ်နေရာတွင် အလ္လာဟ်အရှင်မြတ် အမိန့်ရှိသည်မှာ

إِنَّمَا يُوَفَّى الصَّابِرُونَ أَجْرَهُم بِغَيْرِ حِسَابٍ(10)

အဓိပ္ပါယ်။ 39|10|စွဲမြဲစွာကြံ့ခိုင်သည်းခံသော သူများပင် သူတို့၏ အကျိုးကို မရေမတွက်နိုင်အောင် အပြည့်အဝ ပေးဆပ်ခြင်း ခံကြရမည် ဖြစ်သည်။)

မုတ်စ်လင်မ်တစ်ဦးအပေါ် ဒုက္ခတစ်စုံတစ်ခု ကျရောက်ခြင်းနှင့် စပ်လျဉ်း၍ တမန်တော်မြတ် မုဟမ္မဒ် ﷺအမိန့်ရှိသည်မှာ အကယ်၍ မုတ်စ်လင်မ် တစ်ဦးအား ဆူးငြောင့်ခလုတ် စူးရှသွားသည်ဆိုပင်လျှင်

အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ မကောင်းမှု ပြစ်မှုများကို ချွတ်ကယ် ပလပ်ပေးမည် ဖြစ်သည်။ (ဗိုခါရီနှင့် မုတ်စ်လင်မ်ကျမ်း)

ဖော်ပြပါ အာယသ်တော်များနှင့် ဟဒီးဆ်မှ သိရှိရသည်မှာ ခန္တီတရားထား သူသည် မည်သည့်အခါမှ ဆုံးရှုံးမှုနှင့် ရင်ဆိုင်ရမည်မဟုတ်ပေ။ ဘေးဒုက္ခကြောင့် အဆင်မပြေမှု၊ကျပ်တည်းမှုနှင့် ရင်ဆိုင်ကောင်း ရင်ဆိုင်ရပေမည်။ သို့သော် ထိုဘေးဒုက္ခမှ လွတ်မြောက်သောအခါတွင် ထိုသူသည် အလ္လာဟ်အရှင်မြတ်ထံမှ ကောင်းသော အကျိုးကို နှစ်ဘဝနှစ်ဌာနလုံးတွင် မရေမတွက်နိုင်အောင် ပြည့်ပြည့်ဝဝ ရရှိမည် ဖြစ်သည်။

သို့သော် အကယ်၍ ဘေးဒုက္ခခံစားနေရသည့်အချိန်တွင် သည်းခံမှု အား စွန့်လွှတ်၍ အလ္လာဟ်အရှင်မြတ်အပေါ် ပြစ်တင်ဝေဖန်ခြင်း၊ ကျေးဇူး ကန်းခြင်းများ မလုပ်မိရန် အလွန်အရေးကြီးလေသည်။ဤသို့မဟုတ်ဘဲ အကယ်၍ အလ္လာဟ်အရှင်မြတ်အပေါ် ပြစ်တင်ဝေဖန်ခြင်း၊ ကျေးဇူး ကန်းခြင်းများ ပြုလုပ်ခဲ့ပါက ထိုသူသည် ကျရောက်နေသော ဘေးဗလာကို ခံစားရခြင်းနှင့် အတူ အလ္လာဟ်အရှင်မြတ်ကို ကျေးဇူးကန်းသည့်အတွက် ပြင်းထန်သည့် ပြစ်ဒဏ်ကို ပါခံစားရမည် ဖြစ်သည်။

ကျေးဇူးကန်းခြင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် မိန့်ကြား ထားသည်မှာ

لَئِنْ شَكَرْتُمْ لَأَزِيدَنَّكُمْ وَلَئِنْ كَفَرْتُمْ إِنَّ عَذَابِي لَشَدِيدٌ {إبراهيم :7}

အဓိပ္ပါယ်။ 14|7|ထိုထိုမှတစ်ပါး (ပြန်လည်၍သတိရကြလေကုန်၊) အကြင် အခါဝယ် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် (အသင်တို့အား)အကယ်၍ အသင်တို့သည် ကျေးဇူးတော်ကို သိတတ်ခဲ့ကြ လျှင်၊အမှန်ပင် ငါအရှင်မြတ်သည် အသင်တို့အား တိုး၍ချီးမြှင့်ပေး သနားတော်မူမည် ဖြစ်ကြောင်း။သို့ရာတွင် အကယ်၍သာ အသင်တို့သည်

ကျေးဇူးကန်းခဲ့ကြသည် ရှိသော်၊ဧကန်မလွဲငါအရှင်မြတ်၏ ပြစ်ဒဏ်သည် ပြင်းထန်လှကြောင်း၊ သိစေတော် မူလေသတည်း။)

ဤအတွက်ကြောင့် ကျွန်ုပ်တို့သည် ကျေးဇူးကန်းခြင်းမှ ရှောင်ရှားရန် အလွန်ပင် အရေးကြီးလေသည်။ ကျေးဇူးသိတတ်ခြင်းသည် မုအ်မင်န်၏ ကောင်းသော ဂုဏ်အရည်အချင်း ဖြစ်သလို ကျေးဇူးကန်းခြင်းမှာမူ ကာဖိရ်၊ မုရှ်ရိက်၊မုနာဖိက်နှင့် ရှိုင်တွာန် မိစ္ဆာကောင် တို့၏ အလွန်ဆိုးရွားသော အကျင့်ဖြစ်ပေသည်။ ဤအတွက်ကြောင့် ကျွန်ုပ်တို့သည် အခြေအနေ တိုင်းတွင် (အထူးအားဖြင့်) ဘေးဒုက္ခခံစားနေရသည့် အချိန်အခါတွင် အလ္လာဟ်အရှင်မြတ် ချီးမြင့်ထားသော နေ့အ်မသ် စည်းစိမ်များကို သတိရကာ အလ္လာဟ်အရှင်မြတ်အား နှလုံးသဲပိုးထဲမှ ကျေးဇူး တင်ရှိရမည်ဖြစ်သည်။

ခံစားနေရသော ဘေးဒုက္ခကိုကုစားရန် ကျမ်းမြတ်ကုရ်အာန်တွင် ဤသို့အမိန့်ရှိသည်မှာ

( 2/ 153):يٰۤاَيُّهَا الَّذِيْنَ اٰمَنُوا اسْتَعِيْنُوْا بِالصَّبْرِ وَالصَّلٰوةِ اِنَّ ۖ اللّٰهَ مَعَ الصّٰبِرِيْنَ . البقرة

အဓိပ္ပါယ်။ 2|153|အို-ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြသူ အပေါင်းတို့၊ သင်တို့သည် သည်းခံတရားထားခြင်းဖြင့် လည်းကောင်း၊ဆွလာတ်ဝတ်ပြု ခြင်းဖြင့် လည်းကောင်း၊(အလ္လာဟ်အရှင်မြတ်၏ အထံတော်မှ)ကူညီထောက် ပံ့ စောင်မတော်မူခြင်းကိုရယူကြ ကုန်လော့။ ဧကန်အမှန် အလ္လာဟ် အရှင်မြတ်သည် ခန္တီတရား ထားရှိသောသူတို့နှင့် အတူတကွ (အမြဲ)ရှိတော်မူ လေသတည်း။)

ဤအတွက်ကြောင့် ကျွန်ုပ်တို့သည် ဘေးဒုက္ခ တစ်စုံတစ်ခုနှင့် ကြုံတွေ့ပါက ထိုဘေးဒုက္ခကို ဖယ်ရှားပေးရန် နမာဇ်နှင့် ခန္တီတရားကို အကြောင်းခံ၍ အလ္လာဟ်အရှင်မြတ်ထံ ချဉ်းကပ်ကာ အကူညီများ တောင်းခံရမည်ဖြစ်သည်။ ထိုကဲ့သို့ နမာဇ်နှင့် ခန္တီတရားကို အကြောင်းခံ၍

အလ္လာဟ်အရှင်မြတ်ထံ ချဉ်းကပ်ကာ အကူညီများ တောင်းခံခြင်းသည် နဗီတမန်တော်များ၏ လမ်းစဉ် ဖြစ်ပေသည်။

စာဖတ်သူပရိတ်သတ်၏လက်ဝယ်ရှိ **"ကိုရိုနာဗိုင်းရပ်စ်၊အစ္စလာမ့်သွန်သင်မှု** များ**နှင့် ခတ်သစ်မတ်စ်အလဟ်များ"**အမည်ရှိစာအုပ်တွင် လတ်တလော ကိုရိုနာ ကာလ၌ မုတ်စ်လင်မ်များ ကြုံတွေ့နေရသည့် အလွန်အရေးကြီးသော မတ်စ်အလဟ်များ၊ အမိန့်ပညတ်ချက်များကို အများ မုတ်စ်လင်မ် လွယ်ကူ စေရန် စုဆည်း တင်ပြထားပေသည်။ အင်ရှာအလ္လာဟ် ကျန်ရှိကဏ္ဍများနှင့် သက်ဆိုင်သော မတ်စ်အလဟ်များကိုလည်း ဒုတိယပိုင်းတွင် စုစည်း တင်ပြ သွားမည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သခင် ဤမပြောပလောက်သော ကြိုးစားမှုလေးအား မိမိထံတော်ပါး၌ လက်ခံမှု ပြုတော်မူပါစေ။၎င်းနောက် ကျွန်ုပ်နှင့် မိဘ၊ဆရာ သမားများကို အပယ်ငရဲမှ လွတ်မြောက်စေပြီး ဂျန္နသ်သွလ်ဖိရ်ဒေါင်စ်၌ အဆင့်အတန်း မြင့်မြင့် ချီးမြင့်ပေးသနားတော် မူပါစေ။အာမီန်။

အဆုံး၌ ပြောကြားလိုသည်မှာ ကျွန်ုပ်အား ဝိုင်းဝန်း ကူညီကာ မိမိတို့၏ ဖုန်းများဖြင့် စာစီပေးခဲ့သော ချစ်မိတ်ဆွေများကို အထူးပင် ကျေးဇူး တင်ရှိပါသည်။အလ္လာဟ်အရှင်မြတ် ထိုသူများအားလုံးကို နှစ်ဘဝ နှစ်ဌာနလုံး၌ ကောင်းသော အစားများ ချီးမြင့်တော်မူပါစေ။ အာမီန်။

စုစည်းတင်ပြသူ

မုဟမ္မဒ် အုဆ်မာန် ဂနီ ကမာရွတ်

ခေတ္တ အီဂျစ်

Islamic Mission City. Cairo

22/9/2020

ဆွဖရ်လ ၃ရက်/ဟိဂ်ျရီ၁၄၄၂ခု

# ကိုရိုနာကဏ္ဍ

## ကိုရိုနာဗိုင်းရပ်စ် (အသက်ရှုလမ်းကြောင်းဆိုင်ရာ ရောဂါဘေးဗလာ)မှာ ယခုမှ ဖြစ်ပေါ်လာသော အသစ်အဆန်း ရောဂါ မဟုတ်ပေ

ကိုရိုနာဗိုင်းရပ်စ် ဘေးဗလာသည် ယခုမှ ပေါ်ပေါက်လာသော အသစ်အဆန်း ရောဂါမဟုတ်ပေ။ ဒီအရင်လဲ ဤကဲ့သို့သော ဘေးဗလာများ ကျရောက်လေ့ ရှိခဲ့သည်။(၁၄)ရာစုတွင် ဥရောပ၌ ကျရောက်ခဲ့သည့် လူအသေအပြောက် များပြားလှသော (Black Death) ပုလိပ်ကပ်ဘေးရောဂါဆိုးကြီး ဖြစ်စဉ်မှ ကိုရိုနာဗိုင်းရပ်စ်ပိုး ဖြစ်စဉ်အထိ သမိုင်းဖြစ်စဉ်အား စာဖတ်သူတို့၏ ရှေ့တွင် တင်ပြအပ်ပါသည်။

ဥရောပနိုင်ငံများသည် အလည်ခေတ် နောက်ဆုံး အချိန်ကာလတွင် များစွာသော ပြဿနာများနှင့် ကြုံတွေ့ခဲ့ရပေသည်။တစ်ဖက်မှာ သဘာဝ ဘေးအန္တရာယ်များ ပမာဆိုသော် မိုးခေါင်ရေရှားခြင်းနှင့် ရောဂါ ဘေးဗလာများဖြစ်ပြီး နောက်တစ်ဖက်တွင်မူ မိမိတို့ အုပ်စုတစ်စုနှင့် နောက်အုပ်စုများကြားတွင် စစ်တိုက်ခိုက်မှုများဖြင့် ကြုံတွေ့ခဲ့ရသည်။(၁၄)ရာစုအစ၌ လူ့သမိုင်းတစ်လျှောက်လုံးတွင် အကြီးမားဆုံး ကပ်ဘေး ဖြစ်သော (Black Death) ပုလိပ်ကပ်ဘေးရောဂါဆိုးကြီးမှာ တရုတ်နိုင်ငံမှ အစပြုပြန့်ပွားခဲ့သည်။ ၄င်းပုလိပ်ကပ်ဘေးရောဂါ ဆွဲကပ်သူ၏ လည်ဂုတ်၊ဂျိုင်း(သို့မဟုတ်)ခြေထောက်များတွင် အဖုအထစ် ထွက်ပေါ်ခဲ့သည်။ ဖျားနာခြင်း၊အားအင်ချိနဲ့ခြင်း၏ လက္ခဏာများပြသပြီး အသက်ရှူ ရာတွင်လည်း ခက်ခဲမှုရှိခဲ့သည်။ ရက်အနည်းငယ် ကြာပြီးနောက် ထိုရောဂါသည်မှာ သေဆုံးကွယ်လွန် ခဲ့သည် ။

၄င်း(Black Death) ရောဂါသည် (၁၃၄၇ ခုနှစ် အောက်တိုဘာလ) တွင် ကုန်သည်များမှ တစ်ဆင့် အီတလီနိုင်ငံသို့ ရောက်ရှိ ခဲ့သည်။ အလွန်တိုတောင်းသော တစ်နှစ် မပြည့်တပြည့် အချိန် ကာလ အတွင်းမှာပင်

ဗြိတိန်၊ ပေါ်တူကီ၊ဂျာမနီနှင့် အခြားသော ဥရောပ နိုင်ငံများသို့ တော်မီးသဖွယ် ပျံ့နှံ့ခဲ့သည်။ထိုအချိန်တွင် ဥရောပ၌ နေထိုင်သူများ၏ အရေအတွက်မှာ သန်း (၈၀)နီးနီးရှိပေသည်။

၎င်းသန်း(၈၀)ထဲမှ (၁၃၅၁)ခုနှစ်အထိ လေးနှစ်တာ ကာလ အတွင်း၌ပင် လူပေါင်းသန်း (၅၀)တို့သည် ထိုကပ် ဘေးရောဂါဖြင့် သေဆုံးခဲ့ကြရလေသည်။ပြောရမည်ဆိုလျှင် သေဆုံးသူများ၏ အရေ အတွက်သည် ရှင်သန်သူများ၏ အရေအတွက်ထက် များပေသည်။ အလွန်ကြီးမားသော မြေကျင်းကြီး တူဖော်ကာ အလောင်းများကို တစ်ခုနှင့်တစ်ခု ထပ်ဆင့်ကာ စုပေါင်းမြှုပ်နှံ ခဲ့ရသည် ။ဥရောပတွင်(Black Death)ရောဂါသည် အီတလီမှ အစပြုဖြစ်ပေါ်ခဲ့ခြင်းကြောင့် ထိုရောဂါ၏ ဒဏ်ကိုလည်း အခြားနိုင်ငံများထက် သာပို၍ အီတလီမှာ ခံစားခဲ့ရသည်။ ၎င်းရောဂါသည် မွတ်စ်လင်မ်တို့၏ အုပ်ချုပ် ခံနယ်မြေများကို ပင်လျှင် ကင်းလွတ်ခွင့် မပေးခဲ့ပေ။တကယ့် အချက်အချာ ကျသည့် ကိုင်ရိုမြို့ပင်လျှင် ထိုကပ်ဘေးမှ မလွတ်ကင်းနိုင်သည့်အတွက် အလွန်ပင် အလူးအလဲ ခံစားခဲ့ရသည်။ အီဂျစ်နိုင်ငံ၏ လူဦးရေ အရေအတွက်၏ (၄၀) ရာခိုင်နှုန်းမှာ ထိုကပ်ဘေးကြီး၏ လှိုင်းလုံးအောက်တွင် ပြားပြားဝပ်ခဲ့ရသည်။ ထိုကပ်ဘေးသည် (၁၃၄၉) ခုနှစ်တွင် အခြားသော မရေမတွက် နိုင်သည့် နေရာဒေသများသို့ ကူးစက်ပြန့်ပွားကာ မက္ကာမြို့မိုဆူးလ်မြို့နှင့် ဘဂ္ဂဒက်မြို့တို့ကိုလည်း မိမိ၏ စက်ကွင်းအတွင်း ဆွဲယူရစ်ပတ်ခဲ့သည်။

ကောင်းကင်ဘုံကြီးမှာ လူသားများ၏ ဒုက္ခအကျပ်အတည်းကို မျက်ဝါး ထင်ထင် မြင်တွေ့ခဲ့ရလေသည်။ ဆေးဆရာအမြောက်အများကမူ ရောဂါ ပြန့်ပွားမှုကြောင့် လူနာများအား ဆေးကုသပေးခြင်းမှ ငြင်းဆို ခဲ့သည်။ ဈေးများနှင့် လမ်းများတွင် လူသေအလောင်းများဖြင့် ပြည့်နက်၍ နေပေသည်။သမာသမတ်ကျသော ခန့်မှန်းတွက်ဆချက်အရ ဥရောပတိုက် နှင့် အာရှတိုက်တွင် ထို(Black Death)ကပ်ရောဂါဖြင့် လူပေါင်းသန်း(၂၀၀)

တို့မှာ သေကျေခဲ့ရလေသည်။နေ့ရက်များ ကျော်လွန်ခြင်းနှင့်အမျှ ထိုရောဂါဆိုးကြီးမှာ ရွေ့လျားသွားခဲ့သည်။

ကျွန်ုပ်တို့သည် ယခု(၂၁)ရာစုတွင် ရှင်သန်လျှက်ရှိသည်။ မနေ့က အထိ လူသားတို့မှာ မြေပထဝီပေါ်တွင် သွားလာ လှုပ်ရှားခဲ့သည် ။ယနေ့မှာမူ လေဟာနယ်၌ ပျံသန်းကူးခပ်လျှက်ရှိပေသည်။ထိုနည်းတူစွာ ယနေ့တွင် ယဉ်ကျေးမှုနှင့် တိုးတက်မှုတို့သည် အထွတ်အထိပ်၌ရှိသည်။ ယခင်၌မူ နေ့စဉ် စားဝတ်နေရေးအတွက် တောတောင်များ၊သဲကန္တာရ များတွင် တဝဲလည်လည် လှည့်ပတ်၍ နေခဲ့ရလေသည်။ယခုတွင်မူ လူသားသည် သဘာဝ(အလ္လာဟ်အရှင်မြတ်)၏ လျှို့ဝှက်ချက်များအား သိရှိကြောင်း မော်ကြွားစွာဖြင့် ကြွေးကြော်နေကြသည်။နည်းပညာနှင့် တီထွင်ဖန်တီးမှု များသည် အထွတ်အထိပ်၌ရှိ နေပါလျှက် ယနေ့ လူသားသည် အလွန် သေးငယ်သော ကိုရိုနာ ဗိုင်းရပ်စ်၏ ကြောက်မက်ဖွယ်ရာ အရိပ်မဲကြီး အောက်တွင် တဝဲလည် နေကြရသည်။ လူတို့သည် အလွန်တုန်လှုပ် ခြောက်ခြားလျှက် ရှိသည်။ နေ့အချိန်၏ လင်းဝင်းမှုနှင့် ညအခါ၏မှော်ဝင် သော အလှအပတရားတို့မှာ မှေးမှိန်လျှက်ရှိသည်။ အရက်ဆိုင်၊ နိုက်ကလပ်၊ ပညာရေး အဖွဲ့အစည်း၊ဈေးနှင့် ဝတ်ပြုကျောင်း အစရှိသည်တို့မှာ ပိတ်ပင်ခြင်း ခံထားရပေသည်။ဗိုင်းရပ်စ်ပိုးသည် ဆင်းရဲ ချမ်းသာ၊ အုပ်ချုပ်သူ အုပ်ချုပ်ခံ၊အမျိုးသား အမျိုးသမီး၊လူရွယ် လူကြီး မခွဲခြားဘဲ အလွန်လျင်မြန်စွာဖြင့် မိမိ၏ စက်ကွင်းထဲသို့ ဆွဲယူရစ်ပတ်လျှက်ရှိသည်။ အလွန်တိုတောင်းလှသောအချိန်ကာလ(၂)လ(၃)လအတွင်းမှာပင် ရောဂါသည်များ၏ အရေအတွက်မှာ သိန်းပေါင်းများစွာထိ မြင့်တက်ခဲ့သည်။

များစွာသော လူတို့၏ အသက်များမှာ ဆုံးရှုံးခြင်းခံလိုက်ရလေပြီ။ ကိုရိုနာ ဗိုင်းရပ်စ်သည် ရှေးထောင့်ပေါင်းစုံမှ (Black Death)ပုလိပ်ကပ်ရောဂါနှင့် ဆင်တူရိုးမှား ရှိလေသည်။ထိုရောဂါ နှစ်ခုလုံးသည် တရုတ်ပြည်မှ အစပြုကာ ပျံ့နှံ့ခဲ့သည်။ထို ရောဂါနှစ်ခုလုံး၏ လက္ခဏာများမှာ (ပမာ

အားဖြင့် ဖျားနာခြင်း၊ အသက်ရှူရာ တွင်ခက်ခြင်း)တစ်ခုနှင့်တစ်ခု တူညီမှုရှိသည်။(BlackDeath)ပုလိပ်ကပ်ဘေးရောဂါသည် တစ်ဦးမှ နောက် တစ်ဦးထံသို့ ကူးဆက်ပျံ့နှံ့ခဲ့လေသည်။ယခုကြုံတွေ့နေရသည့် ကိုရိုနာ ဗိုင်းရပ်စ်သည်လည်း ကူးစက်ပျံ့နှံ့လျှက် ရှိသည်။ ထိုရောဂါ နှစ်ခုလုံးသည် ဥရောပတိုက်တွင် အီတလီ မှအစပြု ပျံ့နှံ့ခဲ့သည် ။ထိုနည်းတူစွာ ထိုရောဂါ နှစ်ခုကြောင့်ပင် အီတလီ၌ ကမ္ဘာ့သမိုင်းဝင် သေကျေပျက်စီးမှုကြီး ဖြစ်ခဲ့သည်။(Black Death)ကပ်ဘေးမှ ထိန်းသိမ်းမှု ရယူရန် အထူးသဖြင့် ထိုရောဂါသည်များကို ယေဘုယျအားဖြင့် ကျန်းမာ သန်စွမ်းသူများကို ကွာရန်တင်း ဝင်စေခဲ့လေသည်။ ဤနည်းလမ်းမှာ ထိုရောဂါအတွက် အလွန်ပင် အထောက်အကူ ဖြစ်စေခဲ့သည်။၎င်းနောက် နှစ်ပေါင်းများစွာ အလူးအလဲ ခံစားပြီးသည့်နောက်တွင် (Black Death) ကပ်ဘေးမှ လွတ်မြောက်ခွင့် ရခဲ့သည်။ကိုရိုနာဗိုင်းရပ်စ်၏ လျင်မြန်စွာ ပြန့်ပွားနေမှုကို ထောက်ရှု၍ အကွာအဝေးထား၍ နေထိုင်သွားလာရန်၊ ကြိုတင်ကာကွယ် ရေး အစီအမံများ လုပ်ဆောင်ရန်နှင့် အရေးမကြီးသော တွေ့ဆုံမှုများမှ ရှောင်ရှားရန် အလွန်ပင် အရေးကြီးလှပေသည်။ အထူးအားဖြင့် အသက် အရွယ်အိုမင်းမှုကြောင့် (သို့မဟုတ်) ရောဂါဘယကြောင့် ခုခံအားနည်းပါး သူများမှာ သာပို၍ ရှောင်ရှားသင့်ပေသည်။တစ်ကမ္ဘာလုံး အတိုင်းအတာအရ ကိုရိုနာဗိုင်းရပ်စ်ပိုးကို အခြေခံ၍ များစွာသောကုမ္ပဏီများသည် ယာယီ သို့မဟုတ် အမြဲတမ်းအတွက် ပိတ်သိမ်းခြင်း ခံခဲ့ရလေပြီ။

၎င်း၏အကျိုးဆက်မှာ သန်းပေါင်းများစွာသော လူများသည် စီးပွား ရေးမလုံခြုံမှုပြဿနာ၊အလုပ်လက်မဲ့ ပြဿနာများနှင့် ရင်ဆိုင် နေရသည်။ ရှင်းတန်း တစ်ခုအရ ဗြိတိန်တွင် ရက်သတ္တပါက်(၁)ပတ် (၂)ပတ် အတွင်း အလုပ်သမား အရေအတွက် (၁၀)သိန်းကျော်မှာ အလုပ်လက်မဲ့ ဖြစ်ခဲ့ရ လေသည်။အနောက်နိုင်ငံများ၏ အစိုးရများသည် ပြည်သူများအား ငွေကြေး အရ ကူညီထောက်ပံ့မှုများ ပြုလုပ်ကြသည်။ သို့ဖြစ်ပေရာ ဆင်းရဲ နွမ်းပါး

သော နိုင်ငံများတွင်မူ ချမ်းသာကြွယ်ဝသော သူများမှ ဆင်းရဲသော ပြည်သူလူထုအား ဖေးမကူညီမှုများ ပြုလုပ် သင့်ပေသည်။

၄င်းနောက် မည်သူတစ်ဦးတစ်ယောက်မျှ အငတ်ဘေးကြောင့် အသက်မဆုံးရှုံးရန် အလွန် ဂရုစိုက် သင့်ပေသည်။

လူ့အသိုင်းအဝိုင်းတစ်ခု၏ ထင်မြင်ယူဆချက်မှာ ဗိုင်းရပ်စ်ပိုး၏ ပြင်းထန်သော လှိုင်းလုံးသည် နွေရာသီ၌ အပူရှိန်မြင့်မားလာပါက လျော့ကျသွားမည်ဟုဆိုပေသည်။ ဤသည်မှာ ထင်မြင်ယူဆချက် သက်သက်သာ ဖြစ်ပြီး ၎င်းနှင့် စပ်လျဉ်း၍ ခိုင်မာသော သက်သေအထောက်အထားများ မပြသနိုင်ခဲ့ပေ။သို့သာမက Encyclopaedia Britannica စွယ်စုံကျမ်းကြီး၏ ဖော်ပြချက်အရ (Black Death) ပုလိပ်ကပ်ဘေး ရောဂါကြီးသည် နွေရာသီတွင် ပြန့်ပွားခဲ့သည်။ဆောင်း ရာသီကာလတွင်မူ လူသားတို့မှာ အနည်းငယ်သက်သာ တည်ငြိမ်မှု ရခဲ့ရှိသည်။

အနောက်နိုင်ငံများ၏ ကျန်းမာရေးဌာနများဘက်မှ အသိပေးထားသည်မှာ သေဆုံးသူများ၏ အရေအတွက်သည် ဗြိတိန်တွင် ( ၂သောင်း ) (ကိုရိုနာကာလအစ၏ အရေအတွက်ဖြစ်သည်)အမေရိကန်တွင် ( ၂ သိန်း ) အထိ မြင့်တတ်နိုင်ပေသည်။ဖွံ့ဖြိုးတိုးတက်သည့် နိုင်ငံများမှာ ဤကဲ့သို့ အခြေအနေမျိုးနှင့် ရင်ဆိုင်နေရလျှင် စီးပွားရေး ချုံးချုံးကျမှု၊ အရင်းမြစ်နည်းပါးမှုနှင့် အခြားရှုပ်ထွေးသော ပြဿနာများနှင့် ရင်ဆိုင်နေရသော နိုင်ငံများမှာမူ ခန့်မှန်းတွက်ဆချက်ထက် သာပို၍ လူမှုကျပ်တည်းမှု၏ ဝဲဂယက်ထဲ ကျရောက်နိုင်ပေသည်။

## အစ္စလာမ့်ရှုထောင့်အရ ရောဂါ၏မူလဗီဇမှာ ကူးစက်ပျံ့နှံ့သည်လော?

ရောဂါသည် ကူးစက်ပျံ့နှံ့လေသည်။ဆေးဆရာဝန်များ ၏ သုတေသနအရ ကိုရိုနာဗိုင်းရပ်စ် ပိုးသည် ကူးစက်ပျံ့နှံ့မှုရှိသည်။ဤရောဂါမှာ ကူးစက်

ပျံ့နှံ့တတ်သည်ဟူသော ကိစ္စရပ်သည် အစ္စလာမ်သာသနာနှင့် ဆန့်ကျင်မှု မရှိပေ။ သို့သော် ဟဒီဆ်တော်တွင်မူ ရောဂါသည် ကူးစက်မှုမရှိဟု မိန့်ကြားထားပေသည်။ထိုဟဒီဆ်နှင့် စပ်လျဉ်း၍ ကောင်းစွာနားလည် မှတ်သား ထားသင့်သည်မှာ အစ္စလာမ် မပွင့်ပေါ်မီ အလျင် ကာဖိရ်များသည် ရောဂါ၏ မူလဗီဇမှာ ကူးစက်ပျံ့နှံ့သည်ဟု အကီဒဟ် ( ယုံကြည်ချက် ) ထား ကြသည်။ထို့နောက် တမန်တော်မြတ်မုဟမ္မဒ် ﷺသည် စေတမန်တော် အဖြစ် ပွင့်ပေါ်လာပြီး ထိုကာဖိရ် များ၏ ရောဂါနှင့် စပ်လျဉ်း၍ ထားရှိ သည့်လွဲမှားသော အကီဟ် ( ယုံကြည်ချက်)အား ပယ်ဖျက်လျှက် အမိန့်ရှိ သည်မှာ ရောဂါ၏ မူလဗီဇမှာ ကူးစက်ပျံ့နှံ့ နိုင်စွမ်း မရှိပေ ။

ထိုဟဒီဆ်သည် ရောဂါ ကူးစက်ခြင်းကို ငြင်းဆိုခြင်းမဟုတ်ပေ။ သို့သာမက ကာဖိရ်များ၏ မှားယွင်းသော ယုံကြည်ချက်ကိုသာ မမှန်ကန် ကြောင်းငြင်းဆို နေခြင်းဖြစ်သည် ။ ဤ အတွက်ကြောင့် ရောဂါတိုင်းသည် ကူးစက်သည်ဟု ယုံကြည်ချက် ထားခြင်းသည် အစ္စလာမ့်ရှုထောင့်အရ မှန်ကန်ခြင်းမရှိပေ။သို့သော် အကြောင်းခံတစ်ခုခုကြောင့် အချို့သော ရောဂါများသည် ကူးစက်ပျံ့နှံ့ လေ့ရှိပေသည်။ ဤ အတွက်ကြောင့်ပင် အချို့သော ဟဒီးဆ်ဩဝါဒတော်များတွင် မိန့်ကြားထားသည်မှာ

لايوردن ممرض علي مصح

အဓိပ္ပါယ်။ နာမကျန်းဖြစ်နေသော ကုလားအုတ်ကို ကျန်းမာသော ကုလား အုတ်အနားသို့ ခေါ်ဆောင်သွားခြင်း မပြုလေနှင့် ။(ဟဒီဆ်နံပါတ် ၅၇၇၉ မွတ်စ်လင်မ်ကျမ်း)

ထိုနည်းတူစွာ အနာကြီးရောဂါသည်နှင့် ရှောင်ရှား၍ နေထိုင်ရန် တမန်တော်မြတ် မုဟမ္မဒ် ﷺ အမိန့်ရှိသည်မှာ အသင်တို့ အနာကြီး ရောဂါသည်နှင့် လှံတစ်ပြန်အကွာအဝေး၌ နေ၍ စကားပြောဆို ကြ လေကုန်။

كلم المجذوم بينك وبينه قيد رمح (التيسير بشرح جامع الصغير:٢/٢٢٠)

ထိုဟဒီဆ်မှ တဆင့် ရှင်းလင်းစွာ သိရသည်မှာ ရောဂါသည် ကူးစက် တတ် ပေသည်။အလ္လာမဟ် နဝဝီ(رحمه الله) ရေးသာသည်မှာ အချို့သော ဟဒီဆ်တော်များတွင် ရောဂါမှာ ကူးစက်ပျံ့နှံ့သည်ဟု မိန့်ကြားထားသလို အချို့သော ဟဒီဆ်တော်များတွင်မူ ရောဂါမှာ ကူးစက်ပျံ့နှံ့မှု မရှိဟု နှစ်မျိုး နှစ်ဖုံ မိန့်ခြွေထားပေသည်။ထိုဟဒီဆ်တော် နှစ်မျိုးနှစ်စားအား ဤကဲ့သို့ ညှိနှိုင်း သတ်မှတ်ပေးရမည်မှာ ရောဂါသည် မိမိပင်ကိုယ် ဗီဇအေရ ကူးစက် ပျံ့နှံ့ခြင်းမရှိပေ။သို့သော် အလ္လာဟ်အရှင်မြတ်သည် အချို့သော ရောဂါသည် နှင့် တွေ့ဆုံထိတွေခြင်းကို ရောဂါ ကူးစက်ပျံ့နှံ့ခြင်း၏ အကြောင်းခံအဖြစ် ပြုလုပ်ထားပေသည်။

သို့ဖြစ်ပေရာ ရောဂါမှာကူးစက်ပျံ့နှံ့မှု မရှိဟူသော ဟဒီဆ်တော်သည် အမှန်စင်စစ် ကာဖိရ်များ၏ လွဲမှားသော( ရောဂါ၏ မူလဗီဇမှာ ကူးစက် သည်ဟူသော) ယုံကြည်ချက်အား ငြင်းဆိုရန် မိန့်ကြားထားခြင်း ဖြစ်ပေ သည်။အခြားဟဒီဆ်တော်အရ သိရသည်မှာ ရောဂါသည်နှင့်တွေ့ဆုံ ထိတွေ့ ခြင်းကို ရောဂါကူးစက်မှု ၏ အကြောင်းခံ အဖြစ် အလ္လာဟ်အရှင် မြတ်က သတ်မှတ်ထားလေသည်။

အလ္လာမာဟ် အိဗ်နေဟဂျရ်(رحمه الله)သည် ရောဂါကူးစက်မှုနှင့် စပ်လျဉ်း၍ မိန့်ကြားထားသည့် ဟဒီးစ်တော်အား အကျယ်တဝင့် ဖွင့်ဆို ရှင်းလင်းကာ ဝါကေအဟ် အဖြစ်အပျက်တစ်ခု တင်ပြသည်မှာ ဟိဂျ်ရီ(၈၃၃) ခုနှစ်တွင် ကိုင်ရိုမြို့၌ ကပ်ရောဂါဘေးဆိုးကြီး ကျရောက်လာခဲ့သည်။ ထို့နောက် ဥပုသ် (၃)ရက်စောင့်ကြရန် လူအများကြားတွင် ကြေညာခဲ့လေ သည်။ ထိုနောက်တွင် လူတို့သည် နမာဇ်နှင့် ဆုမွန်များ စုပေါင်း ပြုလုပ် ကြရန် လူစုလူဝေးများ ပြုလုပ်ကြသည်။ ထို့ကဲ့သို့ လူစုလူဝေးလုပ်ပြီး နောက်ပိုင်းတွင် သေဆုံးသူများ၏ အရေအတွက်မှာ တိုးပွားခဲ့လေသည်။ လူစုလူဝေး မလုပ်မီအလျင် သေဆုံးသူများ၏ အရေအတွက်မှာ ( ၄၀ )

သာရှိသည်။ လူစုလူဝေးလုပ်ပြီး နောက်ပိုင်းတွင်မူ သေဆုံးသူများ၏ အရေအတွက်မှာ တိုးသည်ထက်တိုးကာ နောက်ဆုံးတွင် နေ့စဉ် ( ၅၀၀၀ ) ကျော် အထိ မြင့်တက်ခဲ့လေသည်။

ထိုအဖြစ်အပျက်အပေါ် မှတ်ချက်ပြုကာ အလ္လာဟ်မဟ် အိဗ်နေ ဟဂျရ် (رحمه الله) ရေးသားသည်မှာ ဤဖြစ်စဉ် ဆိုးကြီးသည် လူစုလူဝေးကြောင့် ဖြစ်ပေါ်ခဲ့လေသည်။ထိုနည်းတူစွာ အချင်းချင်း ထိတွေ့မှုကြောင့် ရောဂါသည် ကျန်းမာသူများထံသို့ ကူးစက်ပျံ့နှံ့ ခဲ့လေသည်။

ဟဒီဆ်အား အကျယ်တဝင့် ရှင်းလင်းတင်ပြသော ပညာရှင်များက ရေးသားကြသည်မှာ ( ၇ ) မျိုးသော ရောဂါတို့မှာ ကူးစက်ပျံ့နှံ့တတ်လေသည်။ဤသည်မှာ ယခင်ဆေးပညာရှင်များ၏ ယူဆချက်လည်း ဖြစ်ပေသည်။ဤအတွက်ကြောင့် အကယ်၍ ကျွမ်းကျင်သော ဆရာဝန်က ဤရောဂါသည် ကူးစက်ပျံ့နှံ့တတ်သည်ဟု ဆိုလျှင် ထိုဆရာဝန်၏ စကားအား လက်ခံနိုင်ပေသည်။ ဤသည်မှ အစ္စလာမ် သာသနာ၏ အမိန့် ဖြစ်ပေသည်။ ထိုကဲ့သို့သော အခြေအနေတွင် ရောဂါသည်မှာ ဤသို့အကီဒါ (ယုံကြည်ချက်) ထားရမည်။ကျွန်ုပ်အား ရောဂါပိုး ကူးစက်ခြင်းသည် အလ္လာဟ်အရှင်မြတ်ဘက်မှ သတ်မှတ်ထားခြင်းကြောင့်သာ ဖြစ်ပေသည်။ ထိုနည်းတူစွာ အလ္လာဟ်အရှင်မြတ်၏အမိန့်နှင့် အလ္လာဟ်အရှင်မြတ်၏ အလိုဆန္ဒဖြင့်သာ ဤရောဂါမှာ ကူးစက်ပျံ့နှံ့ခဲ့ခြင်းဖြစ်သည်။

## စိုးရိမ်ထိတ်လန့်မှုသည် အကြီးမားဆုံးသော ဗိုင်းရပ်စ်ပိုး ဖြစ်သည်

ဗိုင်းရပ်စ်ပိုး၏ အန္တရာယ်မှ ရှောင်ရှားရန် ကြိုတင်ပြင်ဆင်မှု များလုပ်ဆောင်ရန် အရေးကြီးလှပေသည်။ အစ္စလာမ် သာသနာသည်လည်း ကြိုတင်ကာကွယ်မှုများ လုပ်ဆောင်ရန် လမ်းညွှန် ပြသထားပေသည်။သို့သော်ငြား

လည်း ထိုရောဂါကြောင့် အတိုင်းထက်အလွန် စိုးရိမ်ထိတ်လန့်မှု မဖြစ်သင့်ပေ။ အဘယ့်ကြောင့် ဆိုသော် စိုးရိမ်ထိတ်လန့်မှုထက် ကြီးမားသော ဗိုင်းရပ်စ် ဟူ၍ မရှိပေ။အချို့သူများမှာ ကိုရိုနာ ရောဂါပိုး မရှိသော်လည်း အတိုင်းထက်အလွန် စိုးရိမ်ထိတ်လန့်မှုကြောင့် ကိုရိုနာရောဂါထက် ဆိုးသော အခြားရောဂါများ တွယ်ကပ်ခြင်း ခံရလေသည်။တခါတရံ စိုးရိမ်ထိပ်လန့်မှုကြောင့် သေစေနိုင်သော ရောဂါ တွယ်ကပ်သွားပေသည်။ သို့သော် အလ္လာယ်အရှင်မြတ်၏ အသနားတော်ဖြင့် မွတ်စလင်မ်များထံတွင် နောင်ကျရောက်လာမည့် စိုးရိမ်ထိတ်လန့်မှုများအား ဖယ်ရှားပေးနိုင်သည့် အလွန် ခိုင်မာသော (အကီဒဟ်) ယုံကြည်ချက်များ ရှိလေသည်။

မွတ်စ်လင်မ်တစ်ဦးမှာ ဤကဲ့သို့(အကီဒဟ်)ယုံကြည်ချက်များထားရန် အရေးကြီးပေသည်

(၁)သေချင်းတရားသည် သတ်မှတ်ထားသည့် အချိန်၌သာ ဆိုက်ရောက်လာပေမည်။သတ်မှတ်ချိန်ထက် စော၍ မည်သူမှ သေခြင်းတရား၏ အရသာကို မြည်းစမ်းရမည် မဟုတ်။၎င်းနောက် သေခြင်းတရား ဆိုက်ရောက်လာပါက ၎င်းသေခြင်းတရားအား မည်သူမှ ဆိုင်းငံ့ထားနိုင်မည်မဟုတ်ပေ။

ကုရ်အာန်ကျမ်းတော်မြတ်တွင် ထိုအကြောင်းအရာနှင့် စပ်လျဉ်း၍ ရှင်းလင်းစွာ ဖော်ပြထားသည်မှာ

فَإِذَا جَاءَ أَجَلُهُمْ لَا يَسْتَأْخِرُونَ سَاعَةً ۖ وَلَا يَسْتَقْدِمُونَ(سورة الأعراف :34)

အဓိပ္ပါယ် ။ ။တဖန်၎င်းတို့၏ အချိန်ကာလသည် ဆိုက်ရောက်လာသော အခါ ၎င်းတို့သည် တစ်နာရီမျှပင် နောက်သို့ဆုတ်နိုင်မည်လည်းမဟုတ်ပေ။ ရှေ့သို့တိုးနိုင်ကျမည်လည်း မဟုတ်ပေ။

(၂)အကယ်၍ အလ္လာဟ်အရှင်မြတ်သည် လူတစ်ဦးတယောက်အား အန္တရယ်တစ်စုံတစ်ခု သက်ရောက် စေလိုလျှင် ၎င်းအန္တရာယ်ကို အလ္လာဟ်အရှင်မြတ်မှအပ မည်သူမှ ဖယ်ရှားပေးနိုင်မဟုတ်ပေ။ ထိုနည်းတူစွာ ထို

အရှင်မြတ်က တစ်ဦးတစ်ယောက်အား အကျိုးကျေးဇူးတော် တစ်စုံတရာ ချီးမြှင့်လိုပါက ထိုအရှင်၏ ကျေးဇူးတော်ကို ဤလောကတွင် ရှိရှိသမျှ လူတို့သည် မိမိတို့အချင်းချင်းပေါင်းစည်းကာ ထိုကျေးဇူးတော်အား ဖယ်ရှား နိုင်ကြမည်မဟုတ်ပေ။

တမန်တော်မြတ် မုဟမ္မဒ် ﷺသည် ဤသို့တောင်းဆုပြုရန် သင်ကြား ပေးခဲ့သည်

اللَّهُمَّ لا مَانِعَ لِما أعْطَيْتَ، ولَا مُعْطِيَ لِما مَنَعْتَ، ولَا يَنْفَعُ ذَا الجَدِّ مِنْكَ الجَدُّ

အဓိပ္ပါယ်။ ။အိုအလ္လာဟ်အရှင်မြတ် အသင်သည် အကြင်သူကို တစ်စုံ တရာ ချီးမြှင့်ရန် လိုလားပါက ၄င်းအား မည်သူမျှ တားဆီးနိုင်မည် မဟုတ် ပေ။၄င်းနောက် အကြင်တစ်ဦးဦးအား ပေးကမ်းချီးမြှင့်မှု ရပ်ဆိုင်းလိုက်ပါက ထိုသူအား မည်သူမှ ပေးကမ်းနိုင်မည်မဟုတ်ပေ။

( ဗိုခါရီကျမ်း ဟဒီဆ်အမှတ်၈၄၄ )

(၃)ထိုနည်းတူစွာ မွတ်စ်လင်မ်တစ်ဦးသည် ဤကဲ့သို့ အကီဒဟ်။( ယုံကြည်ချက်) ထားရမည်မှာ ရောဂါပေးသူမှာ တစ်ပါးထဲသော အရှင်သခင် (အလ္လာဟ်)ဖြစ်သလို ကျန်းမာရေး ချီးမြှင့်သူမှာလည်း ထိုအရှင်မြတ်သာလျှင် ဖြစ်ပေသည်။

ဟဒီဆ်တော်တွင် မိန့်ကြားထားသည်မှာ ရောဂါနှင့် ဆေးဝါး ကြားတွင် အတားအဆီး တစ်ခုရှိလေသည်။အကြင်အခါတွင် အလ္လာဟ်အရှင်မြတ်သည် ဆေးဝါးအား ကျန်းမာမှုပေးရန် မိန့်ကြားလိုက်သည်ရှိသော် ရောဂါနှင့် ဆေးဝါး ကြားတွင်ရှိနေသော အတားအဆီးမှာ ရွှေ့လျားသွားပေသည်။ ထိုအချိန်၌ ဆေးဝါးမှာ စူးရှ၍ ရောဂါသည်မှာမူကျန်မာရေးရရှိသွားပေ တော့သည်။ (မိရ်ကာသုလ်မဖာသီဟ်:၇/၆၁၂၇)

## ဘေးဗလာကပ်ရောဂါများနှင့် လော့ဒေါင်း

အစ္စလာမ်သာသနာသည် ဘေးဗလာများမှ ကြိုတင်ကာကွယ်ရန် လမ်းညွှန်ပြသထားပေသည်။မိမိတတ်စွမ်းနိုင် သမျှ ရှောင်ကြဉ်မှုများ ပြုလုပ်သင့်ပေသည်။ ကပ်ရောဂါနှင့် စပ်လျဉ်း၍ တမန်တော်မြတ် မုဟမ္မဒ် ﷺ အမိန့်ရှိသည်မှာ ကပ်ရောဂါပျံ့နှံ့နေသည့် ဒေသသို့ အသင်တို့ သွားရောက်ခြင်း မပြုကြလေနှင့်။ ထိုနည်းတူစွာ ကပ်ရောဂါပျံ့နှံ့နေသည့် ဒေသများတွင်နေထိုင်သော သူများသည်လည်း ထိုနေရာမှ ထွက်ခွာမှု မပြုကြလေနှင့်။ သို့သာမက သည်းခံ မျှိသိပ်ကာ မိမိတို့၏ ဒေသ၌သာ နေထိုင်ကြလေကုန်။ (မွတ်စ်နဒ်အဟ်မဒ်ကျမ်း ဟဒီစ်းနံပတ် ၁၄၉၁)

အကယ်၍ ထိုရောဂါဖြင့် သေဆုံးခဲ့လျှင် ရှဟီဒ်း၏ အဆင့်ကိုရရှိမည်ဖြစ်သည်။ကပ်ရောဂါပျံ့နှံ့ နေသော ဒေသမှ ထွက်ပြေးခြင်းသည် သေခြင်းတရားမှထွက်ပြေးသကဲ့သို့ဖြစ်ပေသည်။

ကျမ်းမြတ်ကုရ်အာန်တွင် အမိန့်ရှိသည်မှာ

أَيْنَمَا تَكُونُوا يُدْرِككُّمُ الْمَوْتُ وَلَوْ كُنتُمْ فِي بُرُوجٍ مُّشَيَّدَةٍ ۗ

အဓိပ္ပါယ်။ အသင်တို့သည် မည်သည့်နေရာ၌ ရှိစေကာမူ မရဏသေခြင်းတရားသည် အသင်တို့ထံသို့ ရောက်ရှိလာမည်ဖြစ်သည်။ အကယ်၍ အသင်တို့သည် အလွန်ခိုင်ခံ့ လုံခြုံသော ခံတပ်ရဲတိုက်များ အတွင်း (ပုန်းအောင်းခိုလှုံ၍)ရှိနေကြသော်လည်း (သေခြင်းတရားမှ လွတ်မြောက်နိုင်ကြမည်မဟုတ်ပေ။(ကုရ်အာန် ၄/၇၈)

အခြားနေရာဒေသရှိ သူများအား ရောဂါပျံ့နှံ့နေသောဒေသသို့ မသွားရောက်ရန် တားဆီးပိတ်ပင်ရခြင်း၏ အဓိကရည်ရွယ်ချက်မှာ မိမိကိုယ်မိမိ ပျက်စီးဆုံးရှုံးမှုထဲမထည့်ရန် ဖြစ်ပေသည်။ယခုလက်ရှိကျင့်သုံးနေသော လော့ဒေါင်းစနစ်မှာ အမှန်စင်စစ် လွန်ခဲ့သော(၁၄)ရာစုအရင်ကတည်းက

တမန်တော် မုဟမ္မဒ်(صلى الله عليه وسلم)ချပြခဲ့သော ကြိုတင်ကာကွယ်ရေး နည်းစနစ်သာ ဖြစ်သည်။

## (၂)နမာဇ် အခန်းကဏ္ဍ

### Mask နှာခေါင်းစည်း အုပ်၍နမာဇ်ဝတ်ပြုခွင့်ရှိပါသလား?

*အမေး ။ ။ လူအများမှာ ကိုရိုနာ ရောဂါပိုးမှ ကာကွယ်သည့် အနေဖြင့် Mask နှာခေါင်းစည်း တပ်ဆင်လျက်ရှိသည်။သို့ဖြစ်ပေရာ ထိုနှာခေါင်းစည်း တပ်ဆင်၍ နမားဇ်ဝတ်ပြုမည် ဆိုပါက မည်သို့အမိန့်ရှိသနည်း..?*

အဖြေ။ ။

الجواب وبالله التوفيق

ရောဂါကာလ မဟုတ်သော သာမန် အချိန်ကာလတွင် အကြောင်းမဲ့ ပါးစပ်နှင့် နှာခေါင်း အစရှိသည့် အစိတ်အပိုင်းများအား ဖုံးအုပ်၍ နမာဇ် ဝတ်ပြုခြင်းသည် (မက်ရူဟ်)ဟရာမ်နှင့်အလွန် နီးကပ်လေသည်။သို့သော် ခိုင်မာသည့်အကြောင်းပြချက်ကြောင့် မျက်နှာအား ဖုံးအုပ်၍နမာဇ်ဂတ်ပြု မည်ဆိုပါက မက္ကရူဟ်မဖြစ်ပေ။ဤအတွက်ကြောင့် ကိုရိုနာ ရောဂါပိုးမှ ကာကွယ်သည့်အနေဖြင့်Mask နှာခေါင်းစည်း ဂတ်ဆင်၍ နမာဇ်ဝတ်ပြု သည်ရှိသော် ထိုသူ၏ နမာဇ်သည်မက္ကရူဟ် မဖြစ်ဘဲ အထမြောက်သွား ပေလိမ့်မည်။

## နေအိမ်များတွင် ဂျမာအသ်(စုပေါင်း) နမာဇ်ဝတ်ပြုရာတွင် ဂျမာအသ်နှင့် ဝတ်ပြုသည့် (စဝါးဗ်) အကျိုးကုသိုလ် ရရှိမည်လော?

*အမေး။ ။ လော့ဒေါင်း ချထားသည့် အချိန်ကာလတွင် နေအိမ်၌ စုပေါင်း၍ နမာဇ်ဝတ်ပြုမည်ဆိုပါက ဂျမာအသ်နှင့်ဝတ်ပြုသည့် (စဝါးဗ်)ကုသိုလ် ရရှိမည်လော?။*

အဖြေ။ ။ အကယ်၍ အကြောင်း တစ်စုံတစ်ရာကြောင့် ဗလီ၌(ဂျမာအသ်) စုပေါင်းဝတ်ပြု နိုင်ခြင်း မရှိခဲ့သော် ထိုကဲ့သို့သော ပုံစံတွင်အိမ်ရှိလူများသည် (ဂျမာအသ်) စုပေါင်း၍ နမာဇ် ဝတ်ပြုခဲ့သည်ရှိသော် ထိုသူများသည် ဂျမာအသ်ဖြင့် ဝတ်ပြုသည့်(စဝါးဗ်)ကုသိုလ် ရရှိမည်ဖြစ်သည်။

## လူနှစ်ဦးစုပေါင်း၍ နမာဇ်ဝတ်ပြုခြင်း

*အမေး။ ။ နှစ်ဦးနှစ်ယောက်စုပေါင်း၍ နမာဇ် ဝတ်ပြုမည်ဆိုပါက ဂျမာအသ်၏(ဖဇီလသ်)ထွတ်မြတ်မှု ရရှိမည်လော?။*

အဖြေ။ ။နှစ်ဦးနှစ်ယောက်စုပေါင်း၍ ဝတ်ပြုခဲ့သည်ရှိသော် ထိုသူတို့သည် ဂျမာအသ်၏ ထွတ်မြတ်မှု ရရှိမည်ဖြစ်သည်။အဘယ့်ကြောင့်ဆိုသော် ဝလီးဒ်ဗင်န် အဗီ မာလိက်ထံမှ ဆင့်ပြန်ချက်လာရှိသည်

أَنَّهُ صَلَّى اللَّه عَلَيْهِ وَسَلَّمَ رَأَى رَجُلا يُصَلِّي وَحْدَهُ فَقَالَ : أَلَا رَجُل يَتَصَدَّق عَلَى هَذَا فَيُصَلِّيَ مَعَهُ ؟ فَقَامَ رَجُل فَصَلَّى مَعَهُ , فَقَالَ : هَذَانِ جَمَاعَة. "

အဓိပ္ပါယ် ။ ။လူတစ်ဦးသည် ဗလီဝတ်ကျောင်းတော်ထဲသို့ ဝင်ရောက်လာ၍ နမာဇ်စတင် ဝတ်ပြုလေသည်။ဤအချင်းရာကို တွေ့မြင်၍ တမန်တော်မြတ် မုဟမ္မဒ် ﷺ အမိန့် ရှိသည်မှာ ထိုသူ့အပေါ် ဆွဒ်ကဟ် မည်သူ ပြုလုပ်မည်နည်း။ ဆိုလိုသည်မှာ ထိုသူ၏ နမာဇ်တွင် မည်သူ ပါဝင်ဝတ်ပြုမည်နည်း?။ ဤစကားကို ကြား၍ လူတစ်ယောက် မက်တပ်ရပ်ကာ

ထိုသူနှင့်အတူ သွားရောက်၍ နမာဇ်ဝတ်ပြုခဲ့လေသည်။ထိုအချိန်၌ တမန်တော်မြတ် မုဟမ္မဒ် ﷺ အမိန့်ရှိသည်မှာ ထိုသူနှစ်ဦး၏ ဂျမာအသ် သည် အထမြောက် သွားလေပြီ။

## နေအိမ်တွင် ဂျမာအသ်ဖြင့် နမာဇ်ဝတ်ပြုမည့်ပုံစံ၌ အဇန် နှင့် အေကာမသ် ရွတ်ဆိုခြင်းဆိုင်ရာ အမိန့်ပညတ်ချက်

*အမေး။ ။အကယ်၍ အိမ်၌ (ဂျမာအသ်)စုပေါင်း ဝတ်ပြုမည်ဆိုပါက ထိုသူ တို့မှာ အဇန် နှင့် အေကာမသ် ရွတ်ဆိုရမည်လော...?*

အဖြေ ။ ။

(၁)မိမိတို့ရပ်ကွက်ရှိ ဗလီ သို့မဟုတ် မိမိတို့နေထိုင်ရာ အရပ်ဒေသရှိ ဗလီ၏ အဇန်သံကို ကြားသိရခဲ့သည်ရှိသော် ထိုကဲ့သို့သော် ပုံစံတွင် အိမ်၌ (ဂျမာအသ်)စုပေါင်း၍ ဝတ်ပြုသူများအား အဇန်နှင့် အေကာမသ်ရွတ်ဆိုရန် လေးလေးနက်နက် တိုက်တွန်းထားခြင်း မရှိပေ။သို့ပေမဲ့အကယ်၍ အဇန်နှင့် အေကာမသ် ထက်မံရွတ်ဆို၍ နမာဇ်ဝတ်ပြုမည်ဆိုလျှင် သာပို၍ မွန်မြတ် ပေသည်။ သို့မှသာ စုပေါင်းဝတ်ပြုသည့်ပုံစံနှင့် တူညီမှု ရသွားမည် ဖြစ်သည်။

(၂)အိမ်တွင် တစ်ကိုယ်ရေတကာယ နမာဇ်ဝတ်ပြုမည့်သူတွက် အဇန် ပေးခြင်းသည် ကောင်းမွန်လှပေသည်။

(၃)အိမ်တွင်ဂျမာအသ်)စုပေါင်းဝတ်ပြုသည့်ပုံစံတွင် အေကာမသ်ဆို ခြင်းသည် စွန္နသ်ဖြစ်ပေသည်။

## အိမ်၌ (ဂျမာအသ်)စုပေါင်းဝတ်ပြုမည်ဆိုပါက (ဆွဖ်)လိုင်းများအား စီတန်းရမည့်နည်းစနစ်

*အမေး။ ။ အိမ်၌ဂျမာအသ်ဖြင့် ဝတ်ပြုသည့် ပုံစံတွင် ဆွဖ်လိုင်းများအား မည်ကဲ့သို့ စီတန်းရမည်နည်း?။*

အဖြေ။

(၁)နှစ်ဦးနှစ်ယောက် စုပေါင်း၍ နမာဇ်ဝတ်ပြုသည့် ပုံစံတွင် အီမာမ်၏ နောက်လိုက်မှုပြု သူမှာ အမျိုးသား သို့မဟုတ် အသိဉာဏ်ရှိသော လူငယ် ဖြစ်ပါက (မွတ်က်သဒီ)နောက်လိုက်မှု ပြုသူမှာ အိမာမ်၏ ညာဘက် အခြမ်းတွင် စီတန်း၍ နမာဇ်ဝတ်ပြုခြင်းသည် စွန္နသ်ဖြစ်ပေသည်။

(၂)အကယ်၍ (မုက်သဒီ)နောက်လိုက်ဝတ်ပြုသူအမျိုးသား တစ်ဦးနှင့် အမျိုးသမီး တစ်ဦးတို့သည် အေမာမ်၏ နောက်လိုက် ဝတ်ပြုသည်ရှိသော် ၎င်းအမျိုသမီးမှာ အမျိုးသား၏ နောက်တွင် စီတန်းရမည်ဖြစ်သည်။

(၃)အကယ်၍ နောက်မှ လိုက်ဖတ်သောသူတို့သည် နှစ်ဦးနယောက် ထက် များခဲ့သည်ရှိသော် ထိုသူတို့သည် အိမာမ်၏ နောက်တွင် စီတန်း ရမည်ဖြစ်သည်။

(၄)အကယ်၍ အိမာမ်နှင့်အတူ အမျိုးသားတစ်ဦးနှင့် အမျိုးသမီးတစ်ဦး၊ သို့မဟုတ် အိမာမ်နှင့်အတူ အသိဉာဏ်ရှိသောလူငယ်နှင့် အမျိုးသမီးတစ်ဦး ဖြစ်လျှင် အမျိုးသား သို့မဟုတ် အသိဉာဏ်ရှိသော လူငယ်သည် အိမာမ်၏ ညာဘက်တွင် စီတန်းကာ အမျိုးသမီးမှာမူ ၎င်းအမျိုးသား သို့မဟုတ် အသိဉာဏ်ရှိသောလူငယ်၏ အနောက်တွင် သီးခြားစွာ စီတန်းရမည် ဖြစ်သည်။

(၅)အကယ်၍ အေမာမ်၏ နောက်မှ လိုက်ဖတ်သောသူများတွင် အမျိုးသားတစ်ဦးနှင့် အမျိုးသမီးတစ်ဦးတို့ထက် များနေပါက ဤကဲ့သို့သော

ပုံစံတွင် အမျိုးသားများသည် ရှေ့လိုင်းတွင် စီတန်း၍ အမျိုးသမီးများမှာမူ ထိုအမျိုးသားများ၏ နောက်တွင် သီးခြားစွာ စီတန်းရမည်ဖြစ်သည်။

## (ဂျမာအသ်)စုပေါင်း ဝတ်ပြုသည့်ပုံစံတွင် တစ်ဦးနှင့် တစ်ဦးကြား၌ အကွားအဝေးထားရှိခြင်း ဆိုင်ရာ အမိတ်ပညတ်ချက်

*အမေး။ ။(ဂျမာအသ်)စုပေါင်းဝတ်ပြုသည့် ပုံစံတွင် ကိုရိုနာရောဂါပိုးမှ ကာကွယ်ရန် နမာဇ်ဖတ်သူများသည် မိမိတို့ တစ်ယောက်နှင့်တစ်ယောက် ကြားတွင် အကွာအဝေး ထားပိုင်ခွင့်ရှိပါသလား....?*

အဖြေ။ ။ အီမာမ် ရှေ့ဆောင်၏ နောက်လိုက်မှု ပြု၍ နမာဇ် ဝတ်ပြုခြင်း အထမြောက်ရန် အတွက် အေမာမ်နှင့် နောက်မှလိုက်၍ ဝတ်ပြုသူ၏ နေရာသည် အမှန်စစ်စစ် ( သို့မဟုတ် ) အမိန့်အရ တူညီရန် (တစ်နေရာ) တည်းဖြစ်ရန် အရေးကြီးပေသည်။ပမာအားဖြင့် ဗလီ၊ ဗလီ၏ ရင်ပြင်နှင့် ဗလီအတွင်းပိုင်းဒေါင့်နေရာ၊ ဤနေရာအားလုံးကို တစ်နေရာထဲဟု သတ်မှတ်ထားပေးသည်။ဤအတွက်ကြောင့် အပေါ်၌ တင်ပြခဲ့သော နေရာများတွင် အကယ်၍ နောက်လိုက် ဂတ်ပြုသူနှင့် အေမာမ်ရှေ့ဆောင် (သို့မဟုတ်) မွတ်က်သဒီ နောက်မှ လိုက်ဝတ်ပြုသူများ၏ ဆွဖ် လိုင်းများ၏ အကွာအဝေးမှာ တစ်ခုနှင့် တစ်ခု (ဆွဖ်)လိုင်း(၂)ခုစာ အကွာအဝေး ရှိသော်ငြားလည်း ထိုပုံစံတွင် အိမာမ်၏ နောက်လိုက် ဝတ်ပြုမှုသည် အထမြောက်သွားပေလိမ့်သည်။

သို့သော် မှတ်သားထားရမည်မှာ အကြောင်းမဲ့ လိုင်းများ၏ ကြားတွင် အကွာအဝေးထားခြင်းသည် မက္ကရူဟ်သဟ်ရီမီ (ဟရမ်နှင့် အလွန်နီးကပ်လေ)သည်။သို့သော် အကယ်၍ ဆွဖ်လိုင်းတစ်ခုနှင့် နောက်တစ်ခု ကြားတွင် ထရပ်ကားတစ်စီး ဖြတ်သွားနိုင်လောက်သည့် လမ်း (သို့မဟုတ်) သင်္ဘော တစ်စီး ဖြတ်သွားနိုင်သည့် အကျယ်အဝန်းရှိသော မြစ်ရှိပါက ထိုကဲ့သို့သော

အချိန်တွင် ဆွဲဖ်လိုင်းများမှာ တစ်ခုနှင့်တစ်ခု ဆက်စပ်မှု မရှိသည့်အတွက် အိမာမ်၏ နောက်လိုက်၍ နမာဇ် ဝတ်ပြုမှုမှာ အထမြောက်တော့မည် မဟုတ်ပေ။

များစွာသော ဆင့်ပြန်ချက်များတွင် လိုင်းတစ်လိုင်းထဲတွင် စုပေါင်း ဝတ်ပြုရန် လေးနက်စွာ တိုက်တွန်း ထားပေသည်။ ဂျမာအသ်နှင့် စုပေါင်း နမာဇ် ဝတ်ပြုသည့် ပုံစံတွင် တစ်ဦးနှင့်တစ်ဦး ကြား၌ အကွာအဝေးထား၍ ဝတ်ပြုခြင်းသည် စွန္နသ်နှင့် ဆန့်ကျင် လေသည်။ဤအတွက်ကြောင့် ဆွဲဖ် လိုင်းများ၏ ကြားတွင် အကွာအအဝေး ထားရှိခဲ့သည်ရှိသော် နမာဇ် ဝတ်ပြု မှုသည် အထတော့မြောက်သွားပေမည်။ သို့သော် စွန္နသ်နှင့် ဆန့်ကျင် မှုပြုရာ ရောက်ပေသည်။အဘယ့်ကြောင့်ဆိုသော် ဟဇရသ်အနတ်စ် رضي الله عنه)ဆင့်ပြန်သည်မှာ

*တမန်တော်မြတ် မုဟမ္မဒ် صلى الله عليه وسلم အမိန့်ရှိသည်မှာ*

رُصُّوا صفوفَكم وقارِبوا بينها وحاذُوا بالأعناقِ فوالذي نفسي بيدِه إني لَأَرى الشيطانَ يدخلُ من خللِ الصفِّ كأنها الحذفُ.

အမိပ့ါယ်။ နမာဇ်၏ လိုင်းများအား ခဲရည်လောင်းထားသော အဆောက် အဦးများသဖွယ် ပြုလုပ်ကြလေကုန်။၎င်းနောက် ထိုလိုင်းများအား တစ်ခုနှင့် တစ်ခု နီးကပ်စွာ ထားကြလေကုန်။၎င်းနောက် မိမိတို့၏ ပခုံးများအား ညီညာစွာ ထားလေကုန်။ထိုဇာတိတော်၏ ကစမ် အကြင်ဇာတိတော်၏ လက်ဝယ်၌ ငါကိုယ်တော်မြတ်၏ အသက်ဇီဝိန်ရှိတော်မူ၏။ကျွန်ုပ်သည် ရှိုင်သွာန်အား မဲနက်ပြီး သေးငယ်သော ဆိတ်မဲလေးကဲ့သို့ နမာဇ်၏ လိုင်းများအတွင်း ဝင်ရောက်နေသည်ကို တွေ့မြင်လျက်ရှိသည် ။

*ကိုရိုနာ ရောဂါပိုးမှ ကာကွယ်မှုရရန် အကယ်၍ အုပ်ချုပ်သူများ သို့မဟုတ် ဒေါက်တာများဘက်မှတစ်ဦးနှင့်တစ်ဦးကြား အတိုင်းတာ*

*တစ်ခုအထိ အကွာအဝေးထားရမည်ဟု လေးလေးနက်နက် မှာကြားခဲ့သည်ရှိသော် ၎င်းသတ်မှတ်ထားသောအကွာအဝေးဖြင့် စုပေါင်း၍ နမာဇ်ဝတ်ပြုမည်ဆိုပါက ထိုဝတ်ပြုမှုသည် အထမြောက်သွားပေမည်။*

## အိမ်အတွင်း၌နေ၍ ဗလီ၏နမားဇ်တွင် ပါဝင်ဝတ်ပြုခြင်း

*အမေး။ ကျွန်ုပ်၏အိမ်သည် ဗလီ၏ အနီးပတ်ဝန်းကျင်တွင် တည်ရှိသည်။ ဗလီတွင် (မိုက်)အသံချဲ့စက်ဖြင့် နမားဇ်ဝတ်ပြုကြသည်။အကယ်၍ ကျွန်ုပ်သည် မိမိအိမ်မှနေ၍ ဗလီအတွင်း၌ဝတ်ပြုနေသည့် နမာဇ်တွင် ပါဝင်ဝတ်ပြုမည်ဆိုပါက မည်သို့ရှိသနည်း?*

အဖြေ။ ဗလီနှင့်အိမ်၏ကြားတွင်(ဆွဖ်)လိုင်း(၂)လိုင်းစာအကွာအဝေးမရှိလျှင် ၎င်းနောက် အသံချဲ့စက်မှ တဆင့် အေမာမ်ရှေ့ဆောင်၏နမားဇ်တွင် လှုပ်ရှားမှုကို သိရပါကအိမ်၌နေကာ ဗလီအေမာမ်အားနောက်လိုက်မှုပြု၍ နမားဇ်ဝတ်ပြုပိုင်ခွင့်ရှိပေသည်။အကောင်းဆုံးပုံစံမှာ သီးသန့်တစ်ကိုယ်ရည်တကာယ ဝတ်ပြုခြင်းပင် ဖြစ်သည်။အဘယ့်ကြောင့်ဆိုသော် (မိုက်)အသံချဲ့စက်၏ စနစ်သည် အချိန်မရွေး ချို့ယွင်းခဲ့သည်ရှိသော် အေမာမ်၏ လှုပ်ရှားမှု အခြေအနေအား သိရှိရမည်မဟုတ်တော့ပေ။၎င်းနောက် အကယ်၍ ဗလီနှင့် အိမ်၏ကြားတွင်(ဆွဖ်)လိုင်း (၂)ခုထက်ပို၍ အကွာအဝေးရှိနေပါက အိမ်၌နေ၍ နမားဇ်ဝတ်ပြုပိုင်ခွင့်မရှိပေ။

# (၃)ဂျူမုအဟ်ကဏ္ဍ

## ဂျူမုအဟ် နမာဇ်နှင့် စပ်လျဉ်း သော ဒါရုလ်အိုလူမ် ဒေယိုဘန်ဒ် အိန္ဒိယ၏ ဖသ်ဝါ ဓမ္မသတ်

*အမေး။။။ လက်ရှိနိုင်ငံ၌ ဖြစ်ပေါ်နေသည့် အခြေအနေတွင် ဗလီဂတ်ကျောင်း တော် များနှင့် ဗလီဂတ်ကျောင်းတော် မဟုတ်သည့် အခြားနေရာ ထိုင်ခင်း များတွင် ဂျူမုအဟ် နမာဇ် ဂတ်ပြုခြင်းနှင့် စပ်လျဉ်း၍ အမိန့်ပညတ်ချက် မည်သို့ ရှိသနည်း?။*

အဖြေ။ ကိုရိုနာ ဗိုင်းရပ်စ်ပိုးကြောင့် နိုင်ငံနှင့်အဝန်းတွင် လော့ဒေါင်းချထား ခြင်းကို ရှေးရှု၍ ဖြစ်ပေါ်နေသော အခြေအနေများ ပုံမှန်ပကတိအတိုင်း ပြန် လည် လည်ပတ်လာမည့် အချိန်အထိ ဗလီများနှင့် အခြားနေရာများတွင် ဂျူမုအဟ်နမာဇ်နှင့် စပ်လျဉ်း၍ အမိန့်ပညတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်သည်။

(က)အကယ်၍ မြို့ကြီး၊မြို့သေးနှင့် ရွာကြီးများတွင် ဂျူမုအဟ်နမာဇ် အတွက် သတ်မှတ်ထားသည့် စည်းကမ်းချက်များ ပြည့်စုံသည့်အတွက် ထို ဖော်ပြပါ မြို့ရွာများ၏ ဗလီဂတ်ကျောင်းတော်များတွင် ယခင်အချိန်ကာလမှ လက်ရှိအချိန်ကာလအထိ စနစ်တကျ ဂျူမုအဟ်နမာဇ် ဂတ်ပြုလျှက်ရှိလျှင် ထိုနေရာများတွင် လက်ရှိအခြေအနေ၌ အုပ်ချုပ်သူများဘက်မှ လူစုလူဝေး ပြုလုပ်ရန် နောက်ဆုံး ခွင့်ပြုထားသည့် လူအရေအတွက်ဖြင့် ဂျူမုအဟ် နမာဇ် ဝတ်ပြုရမည်။စည်းကမ်းချက်မှာ ဂတ်ပြုသူများသည် (အေမာမ်) ရှေ့ဆောင်မှအပ သုံးယောက်ရှိရမည်။အကယ်၍ မြို့တစ်မြို့ သို့မဟုတ် ရွာတစ်ရွာရှိ ဗလီများတွင် လက်ရှိဖြစ်ပေါ်နေသော အခြေအနေထက်အလျင် ဂျူမုအဟ်နမာဇ် ဂတ်ပြုခြင်းရှိပြီး အချို့သောဗလီများတွင်မူ ဂျူမုအဟ်နမာဇ် ဝတ်ပြုခြင်း မရှိခဲ့သော် ထိုဂျူမုအဟ်နမာဇ် ဂတ်ပြုခြင်းမရှိသော မြို့ရွာများ

၏ ဗလီများတွင်လည်း ဖြစ်ပေါ်နေသည့် အခြေအနေများ ပုံမှန်ပကတိ အတိုင်း ပြန်လည် လည်ပတ်လာမည့် အချိန်အထိ(အုပ်ချုပ်သူများ ခွင့်ပြုထားသည့် အရေအတွက်အား ရေးရှုလျှက်)(၄)ယောက် သို့မဟုတ် (၅)ယောက်စု၍ ဂျုမုအဟ်နမာဇ် ဝတ်ပြုရမည်။သို့မှသာ ထိုနေရာများ တွင်လည်း အချို့သောသူများ၏ ဂျုမုအဟ်နမာဇ် ဂတ်ပြုခြင်း အထမြောက် သွားပေမည်။

နိုင်ငံတော်၏ လက်ရှိအခြေအနေတွင် ဗလီဂတ်ကျောင်းတော်များ၌ (၅) ယောက်(၆)ယောက်ထက် ကျော်ပြီး စုရုံးခြင်းကို တားမြစ်ထားလေ သည်။ ဤသည်မှာ ဥပဒေပြဋ္ဌာန်းချက်နှင့်အစိုးရ၏ တားမြစ်ချက်ကို အခြေခံ ထားခြင်းကြောင့် ဖြစ်သည်။အစိုးရမှ ဤကဲ့သို့ တားမြစ်ခြင်းသည် ဂျုမုအဟ်၏ စည်းကမ်းချက် ဖြစ်သော (အိဇ်နေအာမ်) ဂျုမုအဟ်နမာဇ်တွင် အများသူငါအား လာရောက်ဂတ်ပြုခွင့် ပေးခြင်းနှင့် မဆန့်ကျင်ပေ။ အဘယ့် ကြောင့်ဆိုသော် အစိုးရဘက်မှ တားမြစ်ခြင်း၏ ရည်ရွယ်ချက်မှာ ဂျုမုအဟ်နမာဇ်ဂတ်ပြုခြင်းကို တားဆီးပိတ်ပင်ရန် မဟုတ်ပေ။ သို့သာမက လူများသည် အစိုးရ၏ပြဋ္ဌာန်းထားသော ဥပဒေအား ချိုးဖောက်လာလျှင် နောက်ဆက်တွဲ ဖြစ်ပေါ်လာမည့် ရှုတ်ထွေးသော ပြဿနာများမှ ကြိုတင် ကာကွယ်ရန် အတွက်သာ ဖြစ်ပေသည်။

أماإذاكان لمنع عدويخشي دخوله وهوفي الصلاةفالظاهروجوب
الغلق١ه حلبي،حاشيةالطحطاوي علي الدر:١/٣٤٤،ط(مكتبة الإتحاد،ديوبند)

قوله"لم تنعقد"يحمل علي ماإذامنع الناس لاماإذاكان لمنع عدوأولقديم عادة

،وقدمر)المصدر السابق:١/٣٤٤،ط(مكتبة الإتحاد،ديوبند)

امداد الفتاوی614/1:

اذن عام ہونا بھی منجملہ شرائط صحت جامعہ ہے،جس کے معنی یہ ہیں کہ
خودپڑھنےوالےکوروکناوہاں مقصودنہ ہو،باقی اگرروک ٹوک کسی اور ضرورت
سےہو،وہ اذن عام میں مخل نہیں،

امداد الاحکام751/1:

اگر چھاؤنی یا قلعہ میں جمعہ ادا کیاجائے تو جائز ہے، گوچھاؤنی اور قلعے میں دوسرے لوگ نہ آسکتے ہوں، کیونکہ مقصود نماز سے روکنا نہیں ہے، بلکہ انتظام مقصود ہے،

(ခ) ဗလီ၌ ဂျုမုအဟ်နမာဇ် ဝတ်ပြုခွင့်မရှိလျှင် အကယ်၍ အုပ်ချုပ်သူများဘက်မှ တားဆီးပိတ်ပင်မှု တစ်စုံတစ်ခုမရှိပါက ထိုရပ်ကွက်၌ နေထိုင်သူများသည် မိမိတို့၏ အိမ်တွင် လာရောက်ဝတ်ပြုလိုသူများအား ခွင့်ပေးလျှက် ဂျုမုအဟ် နမာဇ်အား အိမ်၌ဝတ်ပြုရမည်။ဆိုလိုသည်မှာ ဝတ်ပြုလိုသူများ လာရောက်ဝတ်ပြုနိုင်ရန် ဝတ်မပြုမှီအလျင် အနီး၌ ရှိသူများအား ဂျုမုအဟ် နမာဇ်ဝတ်ပြုမည်ဖြစ်ကြောင်း အသိပေးရမည်။ (၅)ဦးထက်ကျော်ပြီး လူစုလူဝေး မပြုလုပ်ရန် တားမြစ်ထားလင့်ကစား အစိုးရ၏ ဥပဒေပြဋ္ဌာန်းချက်နှင့် တားမြစ်ချက်(၅ဦးထက်ကျော်၍ လူစုလူဝေးမပြုလုပ်ရ)ကိုထောက်ရှုကာ အေမာမ်ရှေ့ဆောင်မှအပ အနည်းဆုံး နောက်လိုက်ဝတ်ပြုသူ ရပ်ကွက်သား(၃)ယောက်တို့မှာ ခွသ်ဗဟ်နှင့် (ကေရအသ်)အား တိုတိုတောင်းတောင်း ဖတ်ရွတ်၍ ဂျုမုအဟ် နမာဇ်ကိုသာ ဝတ်ပြုရမည်။ အကယ်၍ အုပ်ချုပ်သူများဘက်မှ စိုးရိမ်စရာတစ်ခုခု သို့မဟုတ် တားဆီးပိတ်ပင်လာမည်ကို စိုးရိမ်ရပါက ဂျုမုအဟ်နမာဇ် ဝတ်မပြုမှီ အလျင် အုပ်ချုပ်သူများနှင့် ညှိနှိုင်းကာ နားလည်မှု ရယူထားရမည်။

ကြိုတင် ရှောင်ကြဉ်သောအားဖြင့် အောက်ဖော်ပြပါအချက် ( ၂ ) ချက်အား ဂရုပြုသင့်ပေသည်။

(၁)၄ဦး ၅ ဦး စု၍ မိမိတို့၏အိမ် သို့မဟုတ် ခြံဝင်းထဲတွင် ဂျမုအဟ် နမာဇ် ဝတ်ပြုလိုသည် ရှိသော် အကယ်၍ ထိုပုံစံတွင် ပြဿနာ ဖြစ်လာမည်ကို စိုးရိမ်ရပါက မိမိ၏အတွေးအမြင်အပေါ်၌သာ ယုံပုံအားထားမှုမပြုဘဲ အခြေနေနှင့် အချိန်ခါကို အနီးကပ် အကျွမ်းတဝင် စောင့်ကြည့်တတ်သော ဒေသခံ အာလင်မ်(၂)ပါး(၃)ပါးနှင့် ဆွေးနွေးတိုင်ပင်မှု ပြုရမည်။

(၂) လက်ရှိအချိန်တွင် ရှေ့လျှောက်ဖြစ်ပေါ်လာမည့် အခြေနေများနှင့် စပ်လျဉ်း၍ မည်သို့မျှ ကြိုတင် မပြောဆိုနိုင်ပေ။ ဤအတွက်ကြောင့် အပတ်စဉ် အိမ် သို့မဟုတ် ခြံဝင်းတွင် ဂျူမုအဟ်နမာဇ် ဝတ်ပြုမည့် ထိုသောကြာနေ့တွင် ဖြစ်ပေါ်လာသော အခြေအနေ အရပ်ရပ်အပေါ် သုံးသပ်၍ ဆုံးဖြတ်ချက် ချရမည်ဖြစ်သည်။ ဖြစ်ပေါ် ကြုံတွေ့နေရသာ အခြေနေများအား လျစ်လျူရှု၍ ကျော်လွန်ခဲ့သော ဂျူမုအဟ်နေ့ ၏ အခြေနေများကို သာဒကထားကာ ဆုံးဖြတ်ချက် မချရန် အရေးကြီးလေသည်။

ဆိုလိုသည်မှာ အကယ်၍ ဂျူမုအဟ် အပတ်စဉ် တစ်ခုခုတွင် အခြေနေမှာ ဆိုးရွားနေပါက ထိုဖြစ်ပေါ်နေသော အခြေနေအပေါ်၌သာ သုံးသပ်၍ ဆုံးဖြတ်ချက် ချရမည်။

(ဂ)အကြောင်းအမျိုးမျိုးကြောင့် ပမာဆိုသော် ဂျူမုအဟ် နမာဇ်အား ဦးဆောင်၍ ဝတ်ပြု ပေးမည့်သူ မရှိခြင်း သို့မဟုတ် အုပ်ချုပ်သူများ ဘက်မှ စိုးရိမ်စရာ တစ်စုံတစ်ခုနှင့် ကြုံရခြင်း သို့မဟုတ် တားစီးပိတ်ပင်လာမည်ကို စိုးရိမ်ရပြီး အုပ်ချုပ်သူများနှင့် နားလည်မှုမယူနိုင်ခြင်း သို့မဟုတ် တစ်ဦး တစ်ယောက်၏ စိတ်တွင် စိုးရိမ်ထိပ်လန့်မှု လွှမ်းမိုးနေခြင်း သို့မဟုတ် အိမာမ် ရှေဆောင်မှ အပ နောက်လိုက်ဝတ်ပြုသူ(၁)ဦး(၂)ဦးသာ ရှိခြင်း အစရှိသော အကြောင်းခြ်များကြောင့် အထက်ဖော်ပြပါ အကျယ်တဝန်း ရှင်းလင်းချက်များနှင့် အညီ အကယ်၍မိမိတို့ အိမ် သို့မဟုတ် ခြံဝင်းထဲတွင် ဂျူမုအဟ် နမာဇ်ဝတ်ပြု နိုင်ခြင်းမရှိလျှင် ထိုသူများအားလုံးမှာ သာသနာ့ ရှုထောင့်အရ ခြွင်းချက် ရှိသူများဟု သတ်မှတ်ခြင်းခံရမည်။ ဤအတွက် ကြောင့် ထိုသူများအတွက် ဂျူမုအဟ် နမာဇ်၏ အစား ဇုဟိုရ် နမာဇ်ကိုသာ ဝတ်ပြုခြင်းသည် မက္ကရူဟ် မဖြစ်ဘဲ နမာဇ် အထမြောက်သွားပေလိမ့်မည်။

အဘယ့်ကြောင့် ဆိုသော် အစ္စလာမ် သာသနာသည် မုတ်စ်လင်မ် တစ်ဦးအား မိမိကိုယ်မိမိ စိုးရိမ်ဒုက္ခထဲ ထည့်ရန် မိန့်ကြားထားခြင်းမရှိသလို ထိုကဲ့သို့ ပြုလုပ်ရန် ခွင့်ပြုထားခြင်းလည်းမရှိပေ။

*အမေး။ ။မည်သည့်ပုံစံနှင့်မျှ ဂျူမုအဟ် နမာဇ်ဝတ်ပြုနိုင်ခြင်းမရှိသော သူများသည် ဇိုဟုရ်နမာဇ်အား (ဂျမာအသ်)နှင့် စုပေါင်း၍ ဝတ်ပြုရမည်လော သို့မဟုတ် တစ်ကိုယ်ရေ တစ်ကာယ ဝတ်ပြုရမည်လော?။*

အဖြေ။ ။မြို့ကြီး၊မြို့သေး သို့မဟုတ် ရွာကြီးများ၌ နေထိုင်သူများသည် ခြွင်းချက်ကြောင့် သော်လည်းကောင်း၊ ခြွင်းချက်မဲ့သော် လည်းကောင်း ဗလီသို့သွားရောက်ကာ ဂျူမုအဟ် နမာဇ် ဝတ်ပြုနိုင်ခြင်းမရှိပါက ထိုသူများ သည် တစ်ကိုယ်ရေ တစ်ကာယ သီးခြားစွာ ဇိုဟုရ် နမာဇ်ဝတ်ပြု ရမည် ဖြစ်သည်။ဂျမာအသ်(စုပေါင်း)၍ ဇိုဟုရ်နမာဇ် ဝတ်ပြုခြင်း မပြုလုပ်ရ။

အဘယ့်ကြောင့်ဆိုသော် အကယ်၍ ဂျူမုအဟ်၏ စည်းကမ်းချက်များနှင့် ကိုက်ညီသော ရွာများတွင် ဂျူမုအဟ်နမာဇ် ဝတ်ပြုခြင်းရှိပါက (ရွာ၏ တစ်နေရာ သို့မဟုတ် နေရာ အမြောက်များတွင် ဝတ်ပြုကြသည် ဖြစ်စေ၊ လူအနည်းစု စုပေါင်း ဝတ်ပြုသည် ဖြစ်စေ သို့မဟုတ် အများစု စုပေါင်း ဝတ်ပြုသည်ဖြစ်စေ)ထိုရွာတွင် ခြွင်းချက်ရှိသူ၊ခြွင်းချက် မရှိသူအားလုံး အတွက် ဇဟိုရ်နမာဇ်အား ဂျမာအသ်( စုပေါင်း)၍ဝတ်ပြုခြင်း သည် မက္ကရူဟ် ဖြစ်ပေသည်။ ဟနဖီ ဖေကဟ်၌ အဓိက ကျသော ကျမ်းများနှင့် ဒေယိုဗန်ဒ် သာသနာ့ ပညာရှင်များ၏ ဓမ္မသတ်ဆုံးဖြတ်ချက်မှာလည်း အထက်၌ ဖော်ပြခဲ့သော ဆုံးဖြတ်ချက် အတိုင်းပင် ဖြစ်ပေသည်။၎င်းနောက် ဖေကာဟ် အထောက်အထားများ အရလည်း အထက်၌ဖော်ပြခဲ့သည့် ဆုံးဖြတ်ချက်မှာ မှန်ကန်မှုရှိလေသည်။

قوله"وصورة المعارضة"لأن شعار المسلمين في هذااليوم صلاةالجمعة،وقصدالمعارضةلهم يؤدي إلي أمرعظيم،فكان في صورتهاكراهةالتحريم،رحمتي)ردالمحتار:٣/٣٣ط زكريا

لأن المأموربه في حق من يسكن المصرفي هذاالوقت شيئان:ترك الجماعةوشهودالجمعة،وأصحاب السجن قدرواعلي أحدهماوهوترك الجماعةفيأتون بذلك)المبسوط للسرخسي،باب صلاةالجمعة:٢/٣٦ط:دارالمعرفة،بيروت.

အထက်ဖော်ပြပါပုံစံတွင် ဇုဟိုရ်နမာဇ်အား ဂျမာအသ် ( စုပေါင်း ) ၍ ဝတ်ပြုရန် ခွင့်ပေးထားသောပညာရှင်တို့၏ ထင်မြင်ယူဆချက်အပေါ် များစွာသော ပညာရှင်များနှင့် ခမ္မသတ်ပညာရှင် များက စိတ်ကျေနပ်အားရမှု မရှိကြောင်း ပြောကြားခြင်းသည် မှန်ကန်ပေသည်။၎င်းနောက် ဂျူမုအဟ်၏ စည်းကမ်းချက်များနှင့် မကိုက်ညီသော ရွာငယ်များ၌ နေထိုင်သူများသည် ဂျူမုအဟ်နေ့တွင်လည်း ဗလီ ( သို့မဟုတ် ) မိမိတို့၏ နေအိမ်များတွင် ပုံမှန်အတိုင်း ဇုဟိုရ် နမာဇ်အား ဂျမာအသ် ( စုပေါင်း)၍ ဝတ်ပြုရမည်။

ထိုသူများအတွက် ဇုဟိုရ်နမာဇ်အား တစ်ကိုယ်ရေတကာယ သီးခြားစွာ ဝတ်ပြုစရာ မလိုအပ်ပေ။

ومن لاتجب عليهم الجمعةمن أهل القري و البوادي لهم أن يصلوا الظهربجماعةيوم الجمعةبأذان وإقامة)الفتاوي الخانية علي هامش الهندية،كتاب الصلاة،باب صلاة الجمعة:١/١٧٧ط:المطبعةالكبري الأميرية،بولاق،مصر.

قوله في مصر(أمافي حق أهل السودان فغيرمكروه،لأنه لاجمعة عليهم)حاشية الطحطاوي علي الدر:١/٣٤٦ط:مكتبةالإتحاد،ديوبند)

ကောင်းစွာ သိရှိထားရမည်မှာ အထက်ဖော်ပြပါ မေးခွန်း(၂)ခု၏ အဖြေ (၂)ခုအား ဟနဖီ ဖိကာဟ် ၏ အဓိကကျသော ကျမ်းကိုးများနှင့်ဒေယိုဗန်ဒ် ၏ အကျော်အမော် ဓမ္မသတ်မှူးများ၏ ဓမ္မသတ်ဖြတ်ထုံးဥပဒေများနှင့် အညီ တင်ပြထားခြင်း ဖြစ်ပေသည်။သို့သော် ရေးသား ဖြေကြားရာတွင် ရှည်လျား

မှု မဖြစ်စေရန်အဓိကကျသည့် ကျမ်းကိုး အထောက်အထားများကိုသာ တင်ပြလိုက်ပေသည်။

(ဖသ်ဝါ ခမ္မသတ်အမှတ် ၆၈၁ ခမ္မသတ်ဌာန ဂျမေအဟ် ဒါရွလ်အူလူမ် ဒေယိုဗန်ဒ် အိန္ဒိယ )

## ဂျူမုအဟ် နမားဇ်တွင် အမျိုးသမီးများ ပါဝင်ဝတ်ပြုခြင်း

*အမေး။ အိမ်တွင် ဂျူမုအဟ်နမားဇ်အား ဂျမာအသ်ဖြင့် စုပေါင်းဝတ်ပြုမည်ဆိုပါက အကယ်၍ အိမ်ရှိအမျိုးသမီးများသည် ထိုဂျူမုအဟ်နမာဇ်၌ ပါဝင်ဝတ်ပြုမည်ဆိုပါက မည်သို့ အမိန့်ရှိသနည်း?*

အဖြေ။ အမျိုးသမီးများ အပေါ် ဂျူမုအဟ် နမားဇ်ဝတ်ပြုရန် တာဝန်မရှိပေ။ သို့သော် အကယ်၍ အမျိုးသမီးများသည် အိမ်၌ဝတ်ပြုသော ဂျူမုအဟ် နမားဇ်တွင် ပါဝင်ဝတ်ပြုခဲ့သည်ရှိသော် ၎င်းတို့၏ ဂျူမုအဟ် နမားဇ်မှာ အထမြောက်သွားမည်ဖြစ်သည်။ ဤအတွက်ကြောင့် ထိုအမျိုးသမီးများသည် ဇိုဟုရ် နမာဇ် ဝတ်ပြုရန် မလိုတော့ပေ။သို့သော် အမျိုးသမီးများသည် အောက်ပါ စည်းကမ်းချက်များနှင့် အညီ ဂျူမုအဟ်နမာဇ်တွင် ပါဝင် ဝတ်ပြုရမည်။

(၁)ထိုအမျိုးသမီးများ ပါဝင်ဝတ်ပြုမည့် ဂျူမုအဟ်နမာဇ်တွင် အရွယ်ရောက်ပြီးသား အမျိုးသား အနည်းဆုံး(၄)ဦး ရှိရမည်။

(၂)အခြားသူစိမ်း အမျိုးသား ရှိလျှင် ပြည့်ပြည့်ဝဝ ပရ်ဒါဟ် အစီအစဉ်ဖြင့် ဝတ်ပြုရမည်။

# (၄)ဂျနာဇာဟ် အခန်းကဏ္ဍ

## ဂျနာဇာဟ်နှင့် သက်ဆိုင်သော မတ်စ်အလဟ် အမိန့်ပညတ်ချက်များ

## covid (19) ကိုရိုနာ ဗိုင်းရပ်စ်ဖြင့် ကွယ်လွန်သွားသော အီမာန်ရှင်အား ရေချိုးပေးနည်းနှင့် စပ်လျဉ်းသော (မြစ်ငယ်) ဓမ္မသတ်ဌာန မှ ဖသ်ဝါ ဓမ္မသတ်

ဓမ္မသတ်ဌာန ဂျာမေ့အသွလ်ကောင်ဆရစ်လ် အစ္စလာမီယဟ်

မြစ်ငယ်ဗလီဝင်း၊အမရပူရမြို့နယ်၊မန္တလေးတိုင်းဒေသကြီး

ဓမ္မသတ်အမှတ်စဉ် ( ၃၈ )တွဲ ၇)

*အမေး၁ ။ ။ covid(19) ကိုရိုနာ ဗိုင်းရပ်စ်ဖြင့် ကွယ်လွန်သွားသော အီမာန်ရှင်အား မည်သို့ မည်ပုံ ရေချိုးပေးရမည်နည်း။*

အဖြေ ။ ။ အထူးနားလည်ရမည့်အချက်မှာ ကွယ်လွန်သူ အီမာန်ရှင်အား ရေချိုးပေးခြင်းသည် ဝါဂျစ်ဗ်တာဝန် ဖြစ်ပေသည်။ ဤသည် ကွယ်လွန်သူ မိုင်ယစ်သ်နှင့်စပ်လျဉ်းပြီး သက်ရှိ ထင်ရှားရှိနေသည့် အီမာန်ရှင်များက ဆောင်ရွက်ပေးရမည့် တာဝန်တစ်ခုဖြစ်ပေသည်။ ခိုင်မာသည့် အကြောင်း ပြချက်မရှိဘဲ ရေချိုးပေးခြင်းကို လက်လွှတ်ခြင်းမပြုရပေ။ သို့ပါ၍ နိုင်ငံ တော်အစိုးရမှ အထက်ပါရောဂါဖြင့် ကွယ်လွန်သွားသော အီမာန်ရှင်အား မိုင်ယစ်သ်ရှင် လက်ထဲသို့ လွှဲအပ်ခဲ့ပါက အောက်ပါပုံစံများကို အစဉ်လိုက် ရွေးချယ်ပိုင်ခွင့်ရှိသည်။

(က) အကယ်၍ နိုင်ငံတော်ဘက်မှ မိုင်ယစ်သ်အား (နိုင်ငံတကာ၌ မြင်တွေ့ နေရသည့် ပုံစံအတိုင်း) ပလတ်စတစ်ဖြင့် ထုပ်ပိုး၍ လွှဲပြောင်း ပေးအပ်ခဲ့ပြီး မိုင်ယစ်သ်လက်ခံရရှိသူမှ ယင်းထုပ်ပိုးထားသော ပလတ်စတစ်အိပ်ကို ဖွင့်၍ အလွယ်တကူ ရေချိုးပေးနိုင်မည်ဆိုပါက ရေချိုးပေးမည့်သူသည် မိမိ ကိုယ်ကို ယင်းရောဂါကူးစက်မှု မဖြစ်စေရန် မိုင်ယစ်သ်အား အပြည့်အဝ

ကာကွယ်မှု ဖြစ်စေမည့် စနစ်မျိုးကို ရွေးချယ်ပြီး ရေချိုးပေးရမည်။

*အကယ်၍ စနစ်တကျ အနီးကပ်ရေချိုးပေးရန် မဖြစ်နိုင်ပါက အဝေးမှ ပိုက်ဖြင့် ပက်ဖြန်း ၍ဖြစ်စေ၊ ရေပန်းအောက်၌ထား၍ဖြစ်စေ ရေချိုး ပေးရမည်။*

(ခ) အကယ်၍ နိုင်ငံတော်ဘက်မှ စနစ်တကျ ထုပ်ပိုးထားသောပလတ် စတစ်အား မည်သို့မျှ ဖွင့်ခွင့်မပေးပါက အစ္စလာမ်ဘာသာဝင်အဖွဲ့ အစည်း များ အနေဖြင့် ကွယ်လွန်သူ မိုင်ယစ်သ် အား ပလတ်စတစ်ဖြင့် မထုပ်ပိုးမီ အလျင် ရေချိုးပေးခွင့်ရရှိရေးအတွက် နိုင်ငံတော်တာဝန်ရှိ ပုဂ္ဂိုလ်များနှင့် ညှိနိုင်းဆွေးနွေးတိုင်ပင်သင့်ပေသည်။

အကယ်၍ ဆွေးနွေးတိုင်ပင်မှု အောင်မြင်ပါက အစ္စလာမ်ဘာသာဝင် အဖွဲ့အစည်းများသည် ဤကိစ္စအတွက် ကြိုတင်စနစ်တကျ စီမံဆောင် ရွက်ထားရမည်။ ဆိုလိုသည်မှာ မိုင်ယစ်သ်ရေချိုးကျွမ်းကျင်သူ အီမာန်ရှင် အချို့ကို အသင့်ပြင်ဆင်ခိုင်းထားရမည်။ ထို့အတူ ရောဂါကူးစက်မှု ကာကွယ်ရေးအတွက် လိုအပ်သည့် ဝတ်စုံများ၊ပိုးသတ်ဆေးများ စသည့် အရာဝတ္ထုများကို ဝယ်ယူစုဆောင်းထားရမည်။ သို့မှသာ နိုင်ငံတော်တာဝန်ရှိ သူများဘက်မှ အီမာန်ရှင်တစ်ဦး ကွယ်လွန်ကြောင်း သတင်းပေးသည်နှင့် တပြိုင်တည်း သွားရောက်ပြီး ရေချိုးပေးခြင်းကဏ္ဍကို ဆောင်ရွက်နိုင်မည် ဖြစ်သည်။

(ဂ) အကယ်၍ အထက်ပါပုံစံများ မဖြစ်နိုင်ပါက မိုင်ယစ်သ်ကိုထုပ်ပိုးထား သော ပလတ်စတစ် တစ်ခုလုံးကို ရေစိုလက်(သို့)ရေစိုအဝတ်ဖြင့် မစဟ်ပြု ပွတ်ပေးရမည်။

لما في المحيط البرهاني (٣/٤٢) ط :إدارة القرآن والعلوم الاسلامية.

وقال عليه الصلاة والسلام:للمسلم علي المسلم ست حقوق ،وذكر من جملة ذلك"أن يغسل بعد موته.........أن الميت في صلاة الجنازة بمنزلة الإمام للقوم ،فإنه لايجوز الصلاة بدونه.......لأن مابعد الموت حالة العرض علي الله تعالي والرجوع إليه فوجب تطهيره بالغسل تعظيما لله إلخ.....

ولما في الفتاوي الهندية (١/١٥٨)

ولوكان الميت متفسخا يتعذر منه كفي صب الماء عليه كذا في التاتارخانية ناقلا عن العتابية

ولما في بدائع الصنائع(١/٥٨/٥٧) ط: دار النشر

فالمسح علي الجبائر جائز......وأما شرائط جوازه فهو أن يكون الغسل مما يضر بالعضو المنكسر والجرح ،والقرح أو لا يضر الغسل لكنه يخاف الضرر من جهة أخرى بنزع الجبائر....ثم إذا مسح علي الجبائر والخرق التي فوق الجراحة جاز لما قلنا.

မှတ်ချက် ။ ။ ခမ္မသတ်ဖြေကြားသူနှင့် ခမ္မသတ်တည်းဖြတ်သူတို့ သည် မည်သည့် ဌာနကိုမျှ လိုက်လံဖြေရှင်းပေးမည်မဟုတ်ပါ။

## ကိုရိုနာဗိုင်းရပ်စ်ပိုးဖြင့် သေဆုံးသွားသူအား ရေချိုးပေးခြင်း၊ ကဖန်ပတ်ပေးခြင်းဆိုင်ရာ ပညတ်ချက်များ

*အမေး။ ။အကယ်၍ သေဆုံးသူ၏ ခန္ဓာကိုယ်မှတစ်ဆင့် ကိုရိုနာ ဗိုင်းရပ်စ်ပိုး ကူးစက်နိုင်သည်ဟု ဒေါက်တာက ပြောဆိုအသိပေးခဲ့ပါက ၎င်းကိုရိုနာ ဗိုင်းရက်စ်ဖြင့် သေဆုံးသွားသူအား ဂုစွလ် ရေချိုးပေးခြင်း၊ ကဖန်ပတ် ပေးခြင်း ပြုပေးရမည်လော?။ဤကဲ့သို့သော ပုံစံတွင် သေဆုံးသူအား ရေချိုး ပေးခြင်း၊ ကဖန်ပတ်ပေးခြင်း နှင့် စပ်လျဉ်း၍ မည်ကဲ့သို့ အမိန့် ပညတ်ချက်ရှိသနည်း?။*

အဖြေ ။

(၁) သာမန်ရောဂါများဖြင့် သေဆုံးကွယ်လွန်သောသူအား ဂုစွလ် ရေချိုး ပေးခြင်းသည် ဝါဂျစ်ဗ်တာဝန် ဖြစ်သလို ကိုရိုနာ ဗိုင်းရက်စ်ပိုးဖြင့် သေဆုံး ကွယ်လွန်သူကိုဂုစွလ်ရေချိုးပေးခြင်းသည်လည်း ဝါဂျစ်ဗ်တာဝန် ဖြစ် ပေသည်။

(၂)၎င်းနောက် အကယ်၍ ရေချိုးပေးရာတွင် ရေ၌ ပိုးသတ်ဆေးများ ဖြန်းရန် လိုအပ်လာပါက ထိုရေတွင် ပိုးသတ်ဆေး ဖြန်းပိုင်ခွင့် ရှိပေသည်။

(၃)သေဆုံးသူ၏ နီးစပ်သော ဆွေမျိုးသားချင်းများသည် ရေချိုးပေးရန် သာပို၍ ထိုက်တန်ပေသည်။အကယ်၍အစိုးရ ( သို့မဟုတ် )အခြားသော အဖွဲ့စည်းတစ်ခုသည် သာမန် မုတ်စ်လင်မ်အား (မိုင်ယသ်)သေသူကို ရေမချိုးပေးရန် ပိတ်ပင် တားဆီး ခဲ့ပါက ထိုရေချိုးပေးခြင်းတာဝန်သည် အစိုးရ ( သို့မဟုတ် ) အဖွဲ့အစည်းပေါ်သို့ သက်ရောက်သွားပေသည်။ အကယ်၍ ဤကဲ့သို့သော ပုံစံတွင် ၎င်းအစိုးရ(သို့မဟုတ်) အဖွဲ့အစည်းသည် သေသူအားရေချိုးပေးမည့် တာဂန်ယူမှုမရှိခဲ့ပါက ၎င်းအစိုးရ ( သို့မဟုတ် ) အဖွဲ့အစည်းသည် အပစ်ထိုက်သူ ဖြစ်မည်။

## ကိုရိုနာ ဗိုင်းရပ်စ် ပြန့်ပွားမည်ကို ကြောက်ရွံ့၍ သေသူအား မီးသင်္ဂြိုဟ်ခွင့် ရှိပါသလား?

*အမေး။ ။ ကိုရိုနာ ဗိုင်းရပ်စ်ပိုးပြန့်ပွားမည်ကို ကြောက်ရွံ့၍ ကိုရိုနာ ဗိုင်းရပ်စ်ပိုးဖြင့် သေဆုံးကွယ်လွန်သွားသူအား မီးရှို့သင်္ဂြိုဟ် ပိုင်ခွင့် ရှိပါသလား?။*

အဖြေ။ ။ ရောဂါတစ်ခု ပြန့်ပွားမည်ကို စိုးရိမ်၍ ( သို့မဟုတ်) အခြားသော အကြောင်းခံ တစ်ခုခုကြောင့် သေသူအား မီးရှို့သင်္ဂြိုဟ်ခြင်းကို အစ္စလာမ်

သာသနာက(ဟရာမ်)ပြုမပိုင်ဟု သက်မှတ်ထားပေသည်။ သေသူကို မီးရှို့ခြင်းသည် ၎င်းအား မထီမဲ့မြင်ပြုရာ ရောက်ပေသည်။ မီးဖြင့် ပြစ်ဒဏ်ပေးသည့် အခွင့်အရေးမှာ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်း၏ လက်ဝယ်တွင် ရှိပေသည်။

ဤအတွက်ကြောင့် လောကတွင် မည်သူ တစ်ဦးတစ် တစ်ယောက်ကိုမျှ မီးရှို့ပိုင်ခွင့်မရှိပေ။ ကာဖိရ် ( သို့မဟုတ် ) တရိစ္ဆာန်ပင်လျှင် ဖြစ်နေပါမူ ၎င်းတို့အား မီးရှို့ပိုင်ခွင့်မရှိပေ။

## ကိုရိုနာ ဗိုင်းရပ်စ် ပိုးဖြင့် တစ်ပြိုင်တည်း လူအမြောက်အများ သေဆုံးကွယ်လွန်ခြင်းနှင့် သက်ဆိုင်သည့် အမိန့် ပညတ်ချက်များ

*အမေး။ ။ကိုရိုနာ ဗိုင်းရပ်စ်ပိုးဖြင့် တစ်ပြိုင်တည်း လူအမြောက်အများ သေဆုံး ကွယ်လွန်ခဲ့သည် ရှိသော် အကယ်၍ အချိန်တစ်ချိန်ထဲတွင် ဂျနာဇဟ် အများစု အရန်သင့် ဖြစ်နေလျှင် မည်ကဲ့သို့ ဂျနာဇာ နမာဇ် ဖတ်ပြုရ မည်နည်း?။*

အဖြေ။ ။ တစ်ချိန်ထဲတွင် ဂျနာဇဟ်များ အများစု အရန်သင့်ဖြစ်နေလျှင် အကောင်းဆုံး ပုံစံမှာ ဂျနာဇဟ် တစ်ခုခြင်းကို သီးခြားစွာ ဂျနာဇဟ်နမာဇ် ဖတ်ပြုပေးရမည်။သို့သော် အကယ်၍ ရှိရှိသမျှ ဂျနာဇဟ် များအား တစ်ကြိမ်တည်း စုပေါင်း၍ ဂျနာဇဟ် နမာဇ်ဖတ်ပြုပေးမည် ဆိုပါက ထိုကဲ့သို့ ဂျနာဇဟ် နမာဇ်ဖတ်ပြုခြင်းသည် အထမြောက်သွားပေမည်။

ဂျနာဇဟ်အားလုံးကို တစ်ကြိမ်တည်း စုပေါင်းဖတ်ပြု မည်ဆိုပါက (ဆွဖ်) လိုင်း စီတန်းရမည့် အကောင်းဆုံးသော ပုံစံမှာ ဂျနာဇဟ်တစ်ခု၏ ရှေ့တွင် နောက်ဂျနာဇဟ် တစ်ခုအား စီတန်းထားရမည်ဖြစ်သည်။သို့မှသာ

သေဆုံးသူများအားလုံး၏ ဦးခေါင်းနှင့် ခြေထောက်များသည် တစ်ဘက်ထဲ၌ ရှိနေပေမည်။ထိုနည်းတူစွာ မိုင်ယသ် သေသူများ၏ ရင်ညွှန့်သည်လည်း အိမာမ်၏ အရှေ့တွင်ရှိနေမည်ဖြစ်သည်။

## ကိုရိုနာဗိုင်းရပ်စ် ပိုးဖြင့် လူအများစု သေဆုံး ကွယ်လွန်သည့် အချိန်တွင် မြုပ်နှံမည့်နေရာ လုံလောက်မှုမရှိခြင်းနှင့် စပ်လျဉ်းသည့် အမိန့်ပညတ်ချက်

*အမေး။ ။ အကယ်၍ ကိုရိုနာ ဗိုင်းရပ်စ်ပိုးဖြင့် လူအများစု သေဆုံးသွားခဲ့သည်ရှိသော် မြုပ်နှံရန်နေရာ မလုံလောက်ပါက ၎င်းသေသူများအား (ကဗရ်)ကျင်းတစ်ခုတည်းတွင် စုပေါင်း မြုပ်နှံခွင့်ရှိပါသလား?။*

အဖြေ။ ။သာမန်အချိန်ကာလတွင် ကဗရ်ကျင်း တစ်ခုတွင် သေသူတစ်ဦးကိုသာ မြုပ်နှံ ရပေမည်။တစ်ဦးထက်ပို၍ မြုပ်နှံခွင့်မရှိ။ သို့သော် အလွန်လိုအပ်လာသည့်အချိန်တွင် ကဗရ်ကျင်း တစ်ခုတည်းတွင် များစွာသော သေသူများအား မြုပ်နှံ ပိုင်ခွင့်ရှိပေသည်။

အဘယ့်ကြောင့်ဆိုသော် အုဟုဒ်စစ်ပွဲတွင် ရှဟီးဒ်ဖြစ်သွားသော သူများအား ကဖန်ပိတ် မလုံလောက်သည့်အတွက် နှစ်ယောက် တစ်တွဲ ကဖန်ပတ်ပေးခဲ့လေသည်။

## ကိုရိုနာ ဗိုင်းရပ်စ်ပိုးကြောင့် သေဆုံး ကွယ်လွန်သွားသည့် ကိုယ်ဝန်သည် အမျိုးသမီး၏ ဗိုက်တွင် ရှိသော ကလေးအား ထုတ်ယူခြင်းဆိုင်ရာ အမိန့်ပညတ်ချက်

*အမေး။ ။ကိုယ်ဝန်လွယ်ထားသော အမျိုးသမီး တစ်ဦးသည် ကိုရိုနာဗိုင်း ရပ်စ်ပိုးဖြင့် သေးဆုံးခဲ့ပါက ၎င်းသူမ၏ ဗိုက်တွင် ရှိသောကလေးအား (အော်ပရေးရှင်း) ခွဲစိတ်မှုပြုလုပ်၍ ထုတ်ယူပိုင်ခွင့် ရှိပါသလား?။*

အဖြေ။ ။အကယ်၍ သေဆုံးသွားသူမှာ ကိုယ်ဂန်သည် ဖြစ်နေပြီး ဗိုက်ထဲ၌ ရှိသောကလေးမှာ အသက်ရှင်လျှက် ရှိနေပါက (အော်ပရေးရှင်း) ခွဲစိတ်၍ ၎င်းကလေးအား ထုတ်ယူမည်ဆိုပါက ထုတ်ယူခွင့် ရှိသည်။ အကယ်၍ ဗိုက်ထဲရှိကလေးမှာ သေဆုံးသွားပါက ၎င်းကလေးအား ထုတ်ယူခြင်းမပြုရပေ။

## ဒေါက်တာ (ဆရာဝန်) တစ်ဦးတည်း ဂျနာဇဟ်နမာဇ် ဝတ်ပြု ခြင်းနှင့် သက်ဆိုင်သော အမိန့်

*အမေး။ ။အကယ်၍ ကိုရိုနာဗိုင်းရပ်စ်ပိုးဖြင့် မည်သူတစ်ဦးတစ်ယောက် မျှ ဂျနာဇဟ်နမာဇ်တွင် ပါဝင် ဝတ်ပြုခွင့်မရှိပါက (ဒေါက်တာ)ဆရာဝန် တစ်ဦးတည်းက ဂျနာဇဟ်နမာဇ်ဝတ်ပြုမည်ဆိုပါက ဝတ်ပြု နိုင်ပါသား?။ အကယ်၍ ၎င်းဆရာဝန်တစ်ဦးတည်းက ဝတ်ပြု လိုက်သည်ရှိသော် ၎င်း ဂျနာဇဟ်နမာဇ်အား ဒုတိယတအကြိမ် ပြန်လည်ဝတ်ပြုရန် အရေးကြီး ပါသလား?။*

အဖြေ။ ။အကယ်၍ အမျိုးသား သို့မဟုတ် အမျိုးသမီး တစ်ဦးတည်းက ဂျနာဇဟ်နမာဇ် ဝတ်ပြုမည်ဆိုပါက ဝတ်ပြုခွင့်ရှိပေသည်။ ဤအတွက်

ကြောင့် အပေါ်၌ မေးမြန်းထားသည့် ပုံစံတွင် ဂျနာဇဟ် နမာဇ်အား ဒုတိယအကြိမ် ပြန်လည် ဝတ်ပြုရန် မလိုအပ်ပေ။

## ကိုရိုနာဗိုင်းရပ်စ်ပိုးဖြင့် သေဆုံးသွားသူအား ဂျနာဇဟ် နမာဇ် ဝတ်မပြုပေးခြင်းနှင့် သက်ဆိုင်သည့် အမိန့်ပညတ်ချက်

*အမေး။ ။ စိုးရိမ်ထိတ်လန့်မှု ကြောင့် သို့မဟုတ် အမေ့အမှားတစ်ခုခု ကြောင့် ကိုရိုနာဗိုင်းရပ်စ်ပိုးဖြင့် သေဆုံးသွားသူအား ဂျနာဇဟ်နမာဇ် ဝတ်ပြုမပေးဘဲ မြှုပ်နှံခဲ့သည်ရှိသော် ဤကဲ့သို့သော် ပုံစံတွင် သေသူ၏ ကဗရ်ပေါ်၌ သွားရောက်၍ ဂျနာဇဟ်နမာဇ် ဝတ်ပြုပိုင်ခွင့် ရှိပါသလား?။*

အဖြေ။ ။ဂျနာဇဟ်နမာဇ်ဝတ်ပြုခြင်းသည် ကျန်ရစ်သူများဘက်မှ သေသူအား ပေးဆပ်ရမည့် ဝတ္တရား ဖြစ်ပေသည်။ ထိုနည်းတူစွာ ဂျနာဇဟ် နမာဇ်သည် (ဖရ်သွေကေဖာယဟ်) ဖြစ်ပေသည်။ ဤအတွက်ကြောင့် အခြားသော ရောဂါများဖြင့် သေဆုံးသွားသူအား ဂျနာဇဟ်နမာဇ် ဝတ်ပြု ပေးရမည်သကဲ့သို့ ကိုရိုနာဗိုင်းရပ်စ်ပိုးဖြင့် သေဆုံးကွယ်လွန်သူကိုလည်း ဂျနာဇဟ်နမာဇ် ဝတ်ပြုပေးရမည်ဖြစ်သည်။ အကယ်၍ သေသူတစ်ဦး တစ်ယောက်အား မေ့မှား၍ သို့မဟုတ် အသိမရှိသဖြင့် ဂုစ္စလ် ရေချိုး သန့်စင်မပေးဘဲ သို့မဟုတ် ဂျနာဇဟ်နမာဇ် ဝတ်မပြုပေးဘဲ ကဗရ်တွင် ချလိုက်သည်ရှိသော် ထိုပုံစံတွင် ကဗရ်ပေါ်၌ မြေကြီးမဖို့မှီ အလျှင် အကယ်၍ ကျန်ရစ်သူတို့မှာ သေသူအား ရေချိုးပေးရန် သတိဝင်လာပါက သို့မဟုတ် သေသူအား ရေချိုးသန့်စင်ပေးရသည်ဟု အသိ ရရှိသွားပါက ထိုသေသူ အား ကဗရ်ကျင်းမှထုတ်၍ ရေချိုးသန့်စင် ပေးရမည်။၎င်းနောက် ဂျနာဇဟ် နမာဇ် ဝတ်ပြု၍ မြှုပ်နှံပေးရမည်။

အကယ်၍ အရင်တည်းက ရေချိုးပေးပြီးခဲ့ပါမူ ထိုပုံစံတွင် သီးသန့် ဂျနာဇဟ်နမာဇ်ကိုသာ ဝတ်ပြုရမည်ဖြစ်သည်။အကယ်၍ ကဗရ်ပေါ်၌

မြေကြီးဖို့ပြီးသည့်နောက်မှ ကျန်ရစ်သူတို့မှာ သေသူအား ရေချိုးပေးရန် သတိဝင်လာပါက သို့မဟုတ် သေသူအား ရေချိုးသန့်စင်ပေးရသည်ဟု အသိရရှိသွားပါက ထိုအချိန်တွင် ကဗရ်အား ဖွင့်ပိုင်ခွင့်မရှိတော့ပေ။ ထိုပုံစံတွင် အကယ်၍ သေသူ၏ အလောင်းမှာ ယခုထိ ပေါက်ပြဲခြင်းမရှိဟု ထင်မြင်ယူဆရလျှင် ကဗရ်ပေါ်၌သာ ဂျနာဇာနမာဇ် ဖတ်ပြပေးရမည်။

အဘယ့်ကြောင့်ဆိုသော် တမန်တော်မြတ် မုဟမ္မဒ် ﷺ သည် အမျိုးသမီး သို့မဟုတ် အမျိုးသားတစ်ဦး၏ ဂျနာဇဟ် နမာဇ်အား ကဗရ်၌ ရပ်၍ ဖတ်ပြပေးခဲ့သည်။ဟဇရသ် အဗူ ဟုရိုင်ရာဟ် ( رضى الله عنه ) ဆင့်ပြန် သည်မှာ

عن أبي هريرة : أن رجلا أسود أو امرأة سوداء، كان يقمُّ المسجد ،فمات ، فسأل النبي - صَلَّى اللهُ عَلَيْهِ وَسَلَّمَ - عنه، فقالوا :مات ، فقال :أفلا كنتم آذنتموني به؟ دلوني على قبره - ( أو ) على قبرها ، فأتى قبره فصلى عليها

အဓိပ္ပါယ် ။အနက်ရောင် အသားအရည်ရှိသော အမျိုးသား ( သို့မဟုတ် ) အမျိုးသမီးတစ်ဦးသည် ဗလီ၌ ခိသ်မသ် လုပ်လေ့ရှိသည်။ တစ်ရက်ထိုသူ သေဆုံးကွယ်လွန်သွားခဲ့သည်။သို့သော်တမန်တော်မြတ်မုဟမ္မဒ် ﷺ အား ထိုသူသေဆုံးခြင်းနှင့် စပ်လျဉ်း၍ သတင်းမပေးခဲ့ပေ။ တစ်နေ့၌ တမန် တော်မြတ် မုဟမ္မဒ် ﷺသည် မေးမြန်းသည်မှာ ငါကိုယ်တော် ထိုပုဂ္ဂိုလ်အား တွေ့မြင်ခြင်းမရှိပေ။ ထိုအချိန်၌ ဆွဟာဗဟ်သာဝကများက လျှောက်ထား သည်မှာ အိုအလ္လာဟ်သျှင်မြတ်၏ ရစူလ် ထိုသူသည် သေဆုံး ကွယ်လွန်သွား ခဲ့ရှာလေပြီ။ထိုအချိန်၌ တမန်တော်မြတ် မုဟမ္မဒ် ﷺ မိန့်တော်မူသည် အသင်တို့ ကျွန်ုပ်အား မည်သည့်အတွက်ကြောင့် သတင်းမပေးခဲ့သနည်း?။ ထိုအချိန်၌ ဆွဟာဗဟ် သာဝကများက လျှောက်ထားသည်မှာ အကြောင်း အမျိုးမျိုးကြောင့် ကိုယ်တော့အား သတင်းမပေးခဲ့ခြင်း ဖြစ်ပေသည်။ ကျွန်ုပ်တို့သည် ကိုယ်တော့အား ဒုက္ခမပေးလိုပေ။ ပြောရမည်ဆိုလျှင်

လူတို့သည် ထိုသေဆုံးသွားသူအား သေးသိမ်သူဟု မှတ်ယူ၍ ဂရုမပြုခဲ့ကြပေ။ သို့သော် တမန်တော်မြတ် မုဟမ္မဒ်ﷺ မိန့်တော်မူသည်မှာ အသင်တို့ ကျွန်ုပ်အားထိုသူ၏ ကဗရ်သို့ ခေါ်ဆောင်သွားကြလေကုန်။ သို့ရှိပေရာ တမန်တော်မြတ် မုဟမ္မဒ်ﷺသည် ထိုသူ၏ ကဗရ်၌ သွားရောက်၍ ဂျနာဇာဟ်နမာဇ် ဝတ်ပြု ပေးခဲ့လေသည်။

မှန်ကန်သောအဆိုအရ အချိန်ကာလ မည်မျှ အတိုင်းအတာ ကျော်လွန်သွားပါက သေသူ၏ ရုပ်အလောင်းသည် ပေါက်ပြဲသွားသည်ဟူ၍ ယတိပြတ် သတ်မှတ်ထားခြင်းမရှိပေ။ အဘယ်ကြောင့်ဆိုသော် နေရာဒေသ၊ ရာသီဉတုနှင့် သေသူ၏ ခန္ဓာကိုယ် အချိုးအစားအလျောက် ရုပ်အလောင်း ပေါက်ပြဲရာတွင် တစ်ဦးနှင့်တစ်ဦးကွဲပြား ခြားနားလေသည်။ဤအတွက်ကြောင့် သေသူ၏ ရုပ်အလောင်းသည် ပေါက်ပြဲခြင်းမဖြစ်သေးဟု ထင်မြင် ယူဆရလျှင် ထိုအချိန်တွင် ဂျနာဇဟ်နမာဇ် ဝတ်ပြုပေးခြင်းသည် ဖရာဇ်တာဝန်ဖြစ်ပေသည်။ အကယ်၍သေသူ၏ ရုပ်အလောင်းသည် ပေါက်ပြဲသွားပြီဟု ထင်မြင် ယူဆရပါက ဂျနာဇဟ် နမာဇ် ဝတ်ပြုပေးခြင်း မပြုရတော့ပေ။။

ထိုပုံစံတွင် အကယ်၍ ကျန်ရစ်သူများမှ အရင်တည်းက ဂျနာဇဟ်နမာဇ် ဝတ်ပြုပေးနိုင်ပါလျက် ဝတ်မပြုပေးခဲ့လျှင် ထိုသူများအပေါ်၌ ဂုနာဟ်အပြစ်ထိုက်မည်ဖြစ်သည်။ဤ အတွက်ကြောင့် ထိုသူများသည် အလ္လာဟ်အရှင်မြတ်ထံ များမြောင်စွာ (အိစ်သိဂ်ဖာရ်) ပြစ်ဒဏ်မှ ကင်းလွတ်ခွင့်တောင်းခံရပေမည်။

အကယ်၍ သေသူ၏ ရုပ်အလောင်းမှာ ပေါက်ပြဲခြင်း မပေါက်ပြဲခြင်းနှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေပါက ထိုပုံစံတွင် ဂျနာဇာနမာဇ် ဝတ်ပြုပေးခြင်းမပြုရပေ။

## (၅)ဇကာသ် အခန်းကဏ္ဍ

ဇကာသ်နှင့် သက်ဆိုင်သည့်ပညတ်ချက်များ

ဇကားသ် နိဆားဗ်နှင့် စပ်လျဉ်း၍ အသိပေး ကြေညာချက်

အိုလမာ-အစ္စလာမ်သာသနာ့ ပညာရှင်များ အဖွဲ့ချုပ်

အမှတ်-(၇၆)-၂၈-လမ်း ပထမထပ် ပန်းဘဲတန်းမြို့နယ်၊ရန်ကုန်မြို့။

စာအမှတ်-အ-ဖ/၀၄၉/၂၀၂၀

နေ့စွဲ။ဟိဇ်ဂျ်ရီ(၁၄၄၁)ခုနှစ်၊ယှအ်ဗာန်လ(၂၆)ရက်၊(၂၀၂၀)ခုနှစ်-ဧပြီလ(၂၀)ရက်။

၁။ ရှရီအသ် တရားတော်တွင် ရွှေထည်၏ ဇကားသ် နိဆားဗ်မှာ ဒီနာရ်(၂၀)=၇.၅တိုလာ(အိန္ဒိယ)=၈၇.၄၈၈ရမ်(နိုင်ငံတကာ)ဖြစ်ပြီး မြန်မာအလေးချိန်အရ၅ကျပ်၄ပဲ၁.၅ရွေးဖြစ်ပါသည်။ငွေထည်၏နိဆားဗ်မှာ ဒိရ်ဟမ်(၂၀၀)=၅၂.၅တိုလာ(အိန္ဒိယ)=၆၁၂.၃၆ဂရမ်(နိုင်ငံတကာ) ဖြစ်ပြီးမြန်မာအလေးချိန်အရ ၃၆ကျပ် ၁၃ပဲ ၃.၅ရွေးဖြစ်ပါသည်။

၂။ဟစ်ဂျ်ရီ၁၄၄၁ခုနှစ်၊ရှာဗာန်လ(၂၆)ရက်နေ့၊တနင်္လာနေ့၊(၂၀.၄.၂၀၂၀) ရက်နေ့ငွေ(ဘော်) ပေါက်ဈေးအရ ဇကားသ်နိဆားဗ်မှာ-၄၈၃၀၀၀ (လေးသိန်းရှစ်သောင်းသုံးထောင်)ကျပ်တိတိဖြစ်ပါသည်။

**မှတ်ချက်။**_(၁)။အထက်ပါငွေနိဆားဗ်မှာ ရန်ကုန်မြို့၏ပေါက်ဈေးဖြစ်ပြီး အခြားဒေသများအတွက် မိမိတို့၏ ပေါက်ဈေးကို စုံစမ်း၍ကျင့်သုံးပါရန်။_

**မှတ်ချက်။(၂)** _ဤဇကားသ် နိဆားဗ် တွက်ချက်မှုမှာ ဟိဇ်ဂျ်ရီ(၁၄၄၁) ခုနှစ်၊ယှအ်ဗာန်လ(၂၆)ရက်၊(၂၀၂၀)ခုနှစ်-ဧပြီလ(၂၀)ရက် နေ့မှရှေ့လာမည့် ဟိဇ်ဂျ်ရီ(၁၄၄၂)ခုနှစ်ယှအ်ဗာန်လ အထိသာ အကျုံးဝင်မည်ဖြစ်သည်။_

၃။အရွယ်ရောက်ပြီး ရူးသွပ်ခြင်း မရှိသော အစ္စလာမ်ဘာသာဝင် အမျိုးသား /သမီးအားလုံးအပေါ် ဖော်ပြပါ ဇကားသ်နိဆားဗ်ကို ကြွေးမြီးကင်းပြီး ပိုင်ဆိုင်ခဲ့သည်ရှိသော် ပိုင်ဆိုင်မှု တစ်နှစ်ပြည့်သည့် နေ့ရက်တွင် ဇကားသ် ပေးဆောင်ရန် ဖရ်ဇ်တာဝန် ထိုက်ပေသည်။

၄။ပိုင်ဆိုင်မှု တစ်နှစ်ပြည့်ခြင်းဆိုသည်မှာ နိဆားဗ်ကို စတင်ပိုင်ဆိုင်သည့် နေ့ရက်မှ စ၍ တစ်နှစ်ပြည့်သည့် နေ့ရက်ကိုဆိုလိုသည်။ဥပမာ-လူတစ်ဦးသည် ဟစ်ဂျ်ရီ-၁၄၄၀ခုနှစ်၊ရမ်ဇာန်လမြတ် (၁)ရက်နေ့တွင် ဇကားသ် နိဆားဗ် ပိုင်ဆိုင်ခဲ့ပြီး ဟစ်ဂျ်ရီ-၁၄၄၁ခုနှစ်၊ရမ်ဇာန်လမြတ်(၁)ရက်နေ့တွင်လည်း ဇကားသ် နိဆားဗ်မျှ ပိုင်ဆိုင်ထားပါက ထိုသူ့အပေါ်၌ ဇကားသ် ပေးဆောင် ရန်တာဝန်ရှိသည်။ကြားကာလ၌ နိဆားဗ်ထက်လျော့နည်းသွားလင့်ကစား ဇကားသ် ပေးဆောင်ရမည်။

၅။လူတစ်ဦးသည် နှစ်ပတ်လည် နိဆားဗ်မျှ ပိုင်ဆိုင်သော်လည်းအကြွေးတင်နေသဖြင့် တင်ရှိနေသည့် အကြွေးများကို နုတ်ပယ်လိုက်ပါက နိဆားဗ်မျှ မကျန်တော့လျှင် ထိုသူ့အပေါ် ဇကားသ်ပေးရန် တာဝန်ရှိမည်မဟုတ်ပေ။

၆။ဇကားသ် ပေးဆောင်ရာ၌ ထည့်သွင်း တွက်ချက်ရမည့် အရာများမှာ ရွှေ၊ငွေ၊ငွေစက္ကူနှင့်အရောင်းအဝယ်ပစ္စည်းများဖြစ်သည်။အရောင်းအဝယ်ဟူသည် ပြန်လည်ရောင်းချရန် ရည်ရွယ်၍ ဝယ်ယူထားသော ပစ္စည်းများကို ဆိုလိုပေးသည်။

၇။အဆိုပါ ပစ္စည်းများကို ကာလတန်းဖိုးဖြင့်တွက်ချက်၍ (၄၀)ပုံ(၁)ပုံ (၁၀၀ကျပ်လျှင် ၂.၅ဝိကျပ်) နှုန်းဖြင့် ဇကားသ်ပေးဆောင်ရမည်။

## မည်ကဲ့သို့သော ပုဂ္ဂိုလ်များအား ဇကားသ် ပေးခွင့်ရှိသနည်း?

## အောက်ပါ ပုဂ္ဂိုလ်များအား ဇကားသ် ပေးခွင့်ရှိသည်။

(၁)ဇကားသ် နိဆားဗ်မျှ မပိုင်ဆိုင်သော မွတ်စ်လင်မ်သူဆင်းရဲများ။

(၂)မိမိအပေါ် တင်ရှိနေသောကြွေးများကို နှုတ်ပယ်ပါက နိဆားဗ်မျှ မပိုင်ဆိုင်သူများ။

(၃)လမ်းခရီးတွင် ငွေကြေးပျက်နေသော ခရီးသည်များ။

(၄)ဆင်းရဲ နွမ်းပါးသောညီအစ်ကို၊မောင်နှမများ၊တူ၊တူမများ၊ဦးလေး၊ အဒေါ်များ၊ပထွေး၊မိထွေးများ၊ဇနီး၊ခင်ပွန်း၏ဆွေးမျိုးများ။

(၅)ဘာသာရေး အကျိုးများစွာဖြစ်ထွန်းစေပြီး ဇကားသ်ငွေများကို ရှရီအသ် တရားတော်နှင့် အညီသုံးစွဲသော ဟာဖိဇ်၊မော်လဝီ သင်တန်းကျောင်းများ စသည်တို့ဖြစ်ပါသည်။

## မည်ကဲ့သို့သောပုဂ္ဂိုလ်များအား ဇကားသ် ပေးခွင့် မရှိပါသနည်း?

## အောက်ပါ ပုဂ္ဂိုလ်များအား ဇကားသ် ပေးခွင့်မရှိ။

(၁)ဇကားသ် နိဆားဗ်ပိုင်ဆိုင်သူများနှင့် ၎င်း၏အရွယ်မရောက်သေးသော သား၊သမီးများ။

(၂)စိုင်ယဒ် တမန်တော်မြတ် (ဆွ)၏ မျိုးနွယ်ဝင်များ။

(၃)အမိ၊အဖ၊အဘိုး၊အဘွားများနှင့်အထက်အဆက်ဆက် ဆွေးမျိုးရင်းခြားများ။

(၄)သားသမီး၊မြေး၊မြစ်နှင့် အောက်အဆက်ဆက် အရင်းအချာများ

(၅)ဇနီး ခင်ပွန်း

(ဖ)ကာဖိရ်၊ထိုနည်းတူစွာ ဗလီ၊ကျောင်း၊ကဗရ်စသာန် ၊ရေတွင်း၊ရေကန်၊ လမ်း ၊တံတား ဆေးရုံ အစရှိသည်များ ဆောက်လုပ်ရာတွင်လည်းကောင်း၊ အစ်ဖ်သာရီ၊စဲဟ်ရီ၊ဟလင်မ်၊ဂန်ဂျီ ချက်ပြုတ်ကျွေးမွေးရာတွင် ဇကားသ်ငွေ သုံးဆွဲခွင့်မရှိပေ။

## ဇကားသ် စားထိုက်သူများမှာ ဇကားသ်လိုက်လံတောင်းခံခွင့်ရှိပါသလား?

### မတ်ဆ်အလာဟ်(၁)

ဇကားသ်စားထိုက်သူများသည် ဇကားသ်လက်ခံပိုင်ခွင့်ရှိသော်လည်း လိုက်လံတောင်းခံခွင့်မရှိပေ၊ဇကားသ်ပေးသူများအနေဖြင့် မိမိတို့၏ ဇကားသ်ကို ဇကားသ်စားထိုက်သူအစစ်အမှန်များအား လက်ရောက် ပေးအပ်ရမည်၊မစုံစမ်း မစစ်ဆေးဘဲ အလွယ်တကူ ပေးကမ်းခြင်းဖြင့် ဇကားသ် မစားထိုက်သူများကို ပေးမိပါက ဇကားသ် တာဝန်ကျေမည် မဟုတ်ပေ။ဒုက္ခသည်စခန်းများတွင် ပေးကမ်းလိုလျှင်လည်း ဇကားသ် စားထိုက်သူ အစစ်အမှန် ဟုတ်/မဟုတ် စိစစ်ပြီးမှသာ ပေးကမ်းရမည်။

## နိဆားဗ်နှစ်ပတ်လည်သည့်နေ့ရက်ကို ဟစ်ဂျ်ရီခုနှစ်ဖြင့်သာ တွက်ချက် သတ်မှတ်ထားရမည်။

### မတ်ဆ်အလာဟ်(၂)

နိဆားဗ်ရှင်များသည် မိမိတို့၏နိဆားဗ်နှစ်ပတ်လည်သည့် နေ့ရက်ကို ဟစ်ဂျ်ရ ခုနှစ်ဖြင့် တွက်ချက် သတ်မှတ်ထားရမည်၊ခရစ်သက္ကရာဇ်ဖြင့် တွက်ချက်သတ်မှတ်ခြင်း မပြုရ၊နှစ်ပတ်လည်သည့်နေ့တွင် ဇကားသ် ထိုက်သည့်ပစ္စည်းများကို ကာလတန်ဖိုးဖြင့် စာရင်းဇယား ပြုစုကာ တာဝန်ရှိသည့်ပမာဏကို ပေးဆောင်ရမည်။

## ဇကားသ်ငွေကြေးသုံးဆွဲခွင့်မရှိသောကဏ္ဍများတွင် ငွေသုံးစွဲရန် မလွှဲမရှောင်သာ အကျပ်အတည်းများနှင့် ရင်ဆိုင်နေရလျှင်?

### မတ်ဆ်အလာဟ်(၃)

ဇကားသ်ငွေကြေးသုံးဆွဲခွင့်မရှိသောကဏ္ဍများတွင် ငွေသုံးစွဲရန် မလွှဲမရှောင်သာ အကျပ်အတည်းများနှင့် ရင်ဆိုင်နေရလျှင် သမ်လိက်လုပ်၍ သုံးစွဲခွင့်ရှိကြောင်း ရှရီအသ်တရားတော်က ချွင်းချက်မရှိ ခွင့်ပြုထားပါသည်၊ သို့သော် ယနေ့ခေတ်အခါတွင် ထိုပညတ်ချက်ကို အလွန်ချဲ့ကား၍ လက်လွတ်စပယ် အသုံးပြုလာကြသည့်အတွက် ဇကားသ်စားထိုက်သူ ဆင်းရဲသားများ၏အခွင့်အရေးများ ဆုံးရှုံးရုံသာမက မိမိတို့ပေးဆောင်ရန် တာဝန်ရှိသော ဇကားသ်များ အထမမြောက်နိုင်ကြောင်း ကိုလည်း အထူး သတိမူသင့်ပေသည်၊အမှန်တကယ် မလွှဲမရှောင်သာ အကျပ်အတည်းနှင့် ရင်ဆိုင်ရသော အခြေအနေတွင် တတ်ကျွမ်းနားလည်သည့် မွတ်ဖ်သီ ဓမ္မသတ် ပညာရှင်များကို မေးမြန်းပြီးမှသာ ဆောင်ရွက်ကြပါရန်။

## အခြားသူကိုထုတ်ချေးထားသည့် အကြွေးငွေများ၏ ဇကာသ် နှင့်စပ်လျဉ်းသည့် အမိန့်ပညတ်ချက်များ

### မတ်ဆ်အလာဟ် (၄)

ပြန်လည်ရရှိရန် မျှော်လင့်ချက်မရှိသည့်အကြွေး၏ဇကားသ်ကို ပေးဆောင်ရန် ဝါဂျဗ်တာဝန် မရှိပေ၊သို့သော် ထိုအကြွေးပြန်လည်ရရှိခဲ့ပါက ရရှိသည့် နှစ်(တစ်နှစ်)အတွက်သာ ဇကားသ်ပေးဆောင်ရမည်။

### မတ်ဆ်အလာဟ်(၅)

ပြန်လည်ရရှိရန် မျှော်လင့်ချက်ရှိသောအကြွေး၏ဇကားသ်ကို အကြွေး ပြန်လည်မရရှိမီအလျှင် ပေးဆောင်ရန် ဝါဂျဗ်တာဝန်မထိုက်ပေ၊ ထိုအကြွေး

ပြန်လည်ရရှိလာသည့်အချိန်၌ ကုန်လွန်ခဲ့သည့်နှစ်များအားလုံးကို တွက်ချက်ပေးဆောင်ရမည်၊ဤကဲ့သို့အကြွေးရရန်ရှိည့်အခြေအနေ၌ အကြွေးမရမှီအလျင် နှစ်စဉ်ထိုအကြွေး၏ ဇကားသ်ကို ပေးဆောင်သွားပါက ပိုမိုလွယ်ကူနိုင်ပေသည်။

## အငှားချထားသောနေအိမ်၊တိုက်ခန်း၊ကားစသည်တို့၏တန်ဖိုးနှင့် စပ်လျဉ်း၍ ဇကာသ်အမိန့်ပညတ်ချက်

**မတ်ဆ်အလာဟ်(၆)**

အငှားချထားသော နေအိမ်၊တိုက်ခန်း၊ ကား စသည်တို့၏တန်ဖိုးအပေါ် ဇကားသ်ပေးဆောင်ရန် တာဝန်မရှိပေ၊ သို့သော် ထိုပစ္စည်းများမှ ရရှိသောဝင်ငွေအပေါ် အထက်ဖော်ပြပါ ဇကားသ်စည်းကမ်းများနှင့်အညီ ဇကားသ်ပေးဆောင်ရမည်။

## မှတ်စ်လင်မ် မဟုတ်သူအား(ဇကာသ်)တရားဝင် ဒါနကြေးပေးခြင်း

*အမေး။ ။မွတ်စ်လင်မ်မဟုတ်သူအား ဇကားသ်ပေးပိုင်ခွင့် ရှိပါသလား?။*

အဖြေ။ ။မွတ်စ်လင်မ် မဟုတ်သူအား ဇကားသ်ပေးပိုင်ခွင့် မရှိပါ။သို့သော် ဇကားသ်မှအပ အခြား( နဖိလ်ဆွဒ်ကဟ်) အပိုလှူဒါန်းမည်ဆိုပါက လှူဒါန်းခွင့်ရှိသည်။

## ချေးငွေ သို့မဟုတ် လက်ဆောင်ပဏ္ဏာဟုပြောဆိုကာ ဇကာသ်ငွေပေးခြင်း ဆိုင်ရာ ပညတ်ချက်

*အမေး။။။ ။ကိုရိုနာဗိုင်းရပ်စ်ပိုးကြောင့် များစွာသောသူတို့သည် အလုပ်လုပ်ကိုင်ရန် အပြင်သို့ မထွက်နိုင်ပေ။ထိုကဲ့သို့သော လူများတွင်ဇကာသ်*

*ငွေစားထိုက်သော သူဆင်းရဲများလည်းရှိသည်။ထိုနည်းတူစွာ အချို့မှာ ဇကာသ် စားထိုက်သောလည်း ဂုဏ်သိက္ခာကြောင့် ဇကာသ်ငွေ မယူကြပေ။ ထိုသို့သော သူများအား ချေးငွေ သို့မဟုတ် လက်ဆောင်ပဏ္ဏာဟုပြောကာ ဇကာသ်ငွေ ပေးခြင်း ပြုပိုင်ပါသလား?။*

အဖြေ။ ။ ဇကာသ်ပေးဆောင်သည့် အချိန်တွင် စိတ်ထဲ၌ ဇကာသ်ငွေပေး ဆောင်နေသည်ဟု ရည်စူးလိုက်ရုံဖြင့် ဇကာသ် အထမြောက် သွားပေသည်။ ဆင်းရဲသားအား ဤပိုက်ဆံမှာ ဇကာသ်ငွေဖြစ်သည်ဟု ပြော၍ ပေးစရာ မလိုပေ။ အကယ်၍ ဇကာသ်ယူသူမှာ အမှန်တကယ် ဇကာသ်စားထိုက်သူ ဖြစ်လျှင် ထိုသူအား ဇကာသ်ပေးဆောင်သူမှာ ဤပိုက်ဆံသည် ချေးငွေ သို့မဟုတ် လက်ဆောင်ပဏ္ဏာဖြစ်သည်ဟု ပြော၍ပေးပါက ဇကာသ် အထ မြောက်သွားပေမည်။

ဇကာသ်အား ချေးငွေဟုပြောပေးသည့်ပုံစံတွင် ဇကာသ်ပေးသူသည် ဇကာသ်ယူသူထံမှ မိမိချေးငွေ ခေါင်းစဉ်ဖြင့် ပေးထားသော ဇကာသ်ပိုက်ဆံ အား ပြန်ယူပိုင်ခွင့် မရှိပေ။အကယ်၍ ယူလိုက်လျှင် ထိုပိုက်ဆံအား ၎င်းဇကာသ်ယူသူအား ပြန်ပေးရမည်။အကယ်၍ ဆင်းရဲသားသည် ထို ပိုက်ဆံအား ပြန်မယူလျှင် သို့မဟုတ် ဇကာသ်ပေးသည့်အချိန်တွင် ဇကာသ် ဟုပြောပေးခြင်းသည် သင့်လျော်မှုမရှိဟုထင်လျှင် ဇကာသ်ပေးသူသည် သူဆင်းရဲအား ဤချေးငွေအား ကျွန်ုပ် ပလပ်ပေးလိုက်ပြီဟု ပြောရမည်။

## ဇကာသ်စားထိုက်သူကို ခွဲခြားစွာမသိရှိရသည့် ပုံစံ၌ ဇကာသ်ပေးကမ်းခြင်းဆိုင်ရာ ပညတ်ချက်

*အမေး။ လော့ဒေါင်းကြောင့် အများစုမှာ အလုပ်လက်မဲ့ဖြစ်သွားကြပေသည်။ အဗ်ဒုလ္လာဟ်သည် ဇကာသ်စားထိုက်သူ ဟုတ်/မဟုတ်နှင့် စပ်လျဉ်း၍ လွယ် ကူစွာ မသိရှိနိုင်ပေ။ဤပုံစံတွင် ၎င်းအဗ်ဒုလ္လာဟ်အား ကျွန်ုပ်ဘက်မှဇကာသ်*

*ပေးမည်ဆိုပါက ပေးပိုင်ခွင့် ရှိပါသလား?ထိုနည်းတူစွာ အဗ်ဒုလ္လာဟ်သည် ဇကာသ် စားထိုက်သူ ဟုတ်/မဟုတ် သိလိုသဖြင့် ၎င်းအား မိမိမှာ ဇကာသ် စားထိုက်သူ ဖြစ်ခြင်းနှင့် စပ်လျဉ်း၍ ကစမ် ကျိန်ဆိုခိုင်းပိုင်ခွင့် ရှိပါသလား?*

အဖြေ။ ။ အကယ်၍ ဇကာသ်ပေးသူ၏ စိတ်နှလုံးသားတွင် အဗ်ဒုလ္လာဟ်သည် ဇကာသ်စားထိုက်သူဟု ခိုင်မာစွာ မှန်းဆရလျှင် သို့မဟုတ် အဗ်ဒုလ္လာဟ်သည် ကျွန်ုပ်မှာ ဇကာသ်စားထိုက်သူဖြစ်သည်ဟု ထုတ်ဖော်ပြောကြားလာလျှင် သို့မဟုတ်အဗ်ဒုလ္လာဟ်သည် မိမိ၏နှုတ်မှ ကျွန်ုပ်အား ဇကာသ်ငွေပေးပါဟု ပြောလာလျှင် သို့မဟုတ် အခြားခိုင်လုံသော အကြောင်းခံတစ်ခုခုဖြင့် အဗ်ဒုလ္လဟ်မှာ ဇကာသ် စားထိုက်သူဟု သိရှိရပါက ထိုပုံစံများတွင် အဗ်ဒုလ္လာဟ်အား ဇကာသ်ငွေ ပေးခွင့်ရှိပေသည်။ ထိုအချိန်တွင် အဗ်ဒုလ္လာဟ်အား ကစမ်ကျိန်ဆိုခိုင်းရန် သို့မဟုတ် အခြားအထောက်အထား တစ်စုံတစ်ရာ ပြသခိုင်းရန် မလိုအပ်တော့ပေ။

## ဇကာသ် နိဆားဗ် ပိုင်ဆိုင်မှု တစ်နှစ်မပြည့်မှီအလျင် ကြိုတင်၍ ဇကားသ် ပေးဆောင်ခြင်း

*အမေး။ ။ယခု လက်ရှိ အခြေနေတွင် လော့ဒေါင်းကြောင့် အများစုမှာ ဝတ်မွတ် ခေါင်းပါးမှုနှင့် ရင်ဆိုင်နေရပေသည်။ သို့သော် များစွာသော လူတို့သည် ရာမ်ဿွာန်လ ( သို့မဟုတ် ) ဇကာသ် နိဆားဗ် တစ်နှစ်ပြည့်ပြီးသည့် နောက်မှသာ ဇကသ် ပေးဆောင်ကြလေသည်။ဤအတွက်ကြောင့် ယခုလိုအခြေအနေမျိုးတွင် ဇကာသ် နိဆားဗ် တစ်နှစ်မပြည့်မှီ အလျင် ကြိုတင်၍ ဇကားသ် ထုတ်မည်ဆိုပါက ထုတ်ပိုင်ခွင့်ရှိပါသလား?။*

အဖြေ။ ။ဇကားသ်ပေး ဆောင်ရန် သာသနာမှ အမိန့်ပေးရခြင်း၏ အဓိက ရည်ရွယ်ချက်မှာ သူဆင်းရဲတို့၏ လိုအပ်ချက်များကို ဖြည့်ဆည်းပေးရန်

ဖြစ်ပေသည်။ဤအတွက်ကြောင့် လိုအပ်ချက် ရှိနေပါလျှက်ဇကာသ်ပေး ဆောင်ရန် ရမ်သွာန် လမြတ်ကို စောင့်ဆိုင်းနေခြင်းသည် မှန်ကန်မှုမရှိပေ။ အမှန်စင်စစ် ဇကားသ်သည် နိဆားဗ် ပိုင်ဆိုင်မှု တစ်နှစ်ပတ်လည် ပြည့်ပြီး သည့်နောက်မှသာ တာဝန်ထိုက်လေသည်။သို့သော် အကယ်၍ တစ်နှစ် မပြည့်မှီ အလျင် ဇကာသ်ပေးဆောင်မည်ဆိုပါ ထိုကဲ့သို့ပေးဆောင်ခြင်း ကြောင့် ဇကာသ် အထမြောက်သွားပေလိမ့်မည်။

အဘယ့်ကြောင့် ဆိုသော် ဟဇရာသ် အဗ္ဗားစ်(رضی الله عنه)သည်တမန် တော်မြတ်မုဟမ္မဒ်ﷺအား ကြိုတင် ဇကားသ်ပေးဆောင်ခြင်းနှင့် စပ်လျဉ်း ၍ မေးမြန်းခဲ့ရာ တမန်တော်မြတ် မုဟမ္မဒ်ﷺ သည် ဟဇရသ် အဗ္ဗာစ်အား ကြိုတင်၍ ဇကားသ် ပေးဆောင်ခွင့်ပြုခဲ့လေသည်။ဤ အတွက်ကြောင့် ဟနဖီ၊ရှာဖိအီ၊ဟမ်ဗလီ ဖေကဟ်ပညာရှင်များထံတွင်းလည်း နှစ်မပြည့်မှီ အလျင် ကြိုတင်၍ဇကားသ်ပေး ဆောင်မည်ဆိုပါက ပေးဆောင်ခွင့်ရှိ လေသည်။သို့သာမက လိုအပ်ချက်ကို ရှေးရှုကာ နှစ်မကုန်မှီ အလျင် ဇကားသ်ပေးဆောင်ခြင်းသည် သာပို၍ အကျိုးကုသိုလ်များ ရရှိမည် ဖြစ်သည်။

## (၆)ကိုရိုနာနှင့်စပ်လျဉ်းသော အထွေထွေ မတ်စ်အလဟ် အမိန့်ပညတ်ချက်များ အခန်းကဏ္ဍ

### (Hand Gel)လက်ဆေးဂျယ်အသုံးပြုခြင်း

*အမေး ၃ ။ ။ covid (19) ကိုရိုနာဗိုင်းရပ်စ် အန္တရာယ်မှ ကာကွယ်သည့် အနေဖြင့် လက်များဆေးကြောရာတွင် Al COHOL ပါဝင်သော (Hand Gel)လက်ဆေးဂျယ်များ အသုံးပြုခွင့်ရှိပါသလား။*

အဖြေ ။ ။ Al COHOL ၂ မျိုးရှိပါသည်။

(က) စပျစ်(သို့)စွန်ပလွံဖြင့်ပြုလုပ်ထားသော Alcohol

(ခ ) စပျစ် ၊ စွန်ပလွံတို့ဖြင့် မဟုတ်ဘဲ အခြားအသီးအနှံတို့ဖြင့် ပြုလုပ်ထားသော Alcohol

ပထမအမျိုးအစားသည် မသန့်ဖြစ်ပြီး ဒုတိယအမျိုးအစားမှာမူ သန့်ပေသည်။ ယနေ့ လူ အများအသုံးပြုနေသည့် Hand Gel လက်ဆေးဂျယ်များ၌ များသောအားဖြင့် ဒုတိယ အမျိုးအစား "Al cohol" သာလျှင် ပါဝင်ပေသည်။ သို့ပါ၍ လက်များဆေးကြောရာတွင် ယင်း "Hand Gel" လက်ဆေးဂျယ်များကို အသုံးပြုခွင့်ရှိသည်။

**(မြစ်ငယ်) ဓမ္မသတ်ဌာန မှ ဖသ်ဝါ ဓမ္မသတ်**

**ဓမ္မသတ်ဌာန ဂျာမေ့အသွလ်ကောင်ဆရစ်လ်အစ္စလာမီယဟ်**

မြစ်ငယ်ဗလီဝင်း၊အမရပူရမြို့နယ်၊မန္တလေးတိုင်းဒေသကြီး

ဓမ္မသတ်အမှတ်စဉ် ( ၃၈ )တွဲ ၇)

ရက်စွဲ။(ဟစ်ဂျရီ) ၂ . ၈ .၁၄၄၁ (ခရစ်) ၂၇.၃.၂၀၂၀

**လော့ဒေါင်း ကာလတွင် လိုအပ်ချက်မရှိဘဲ အပြင်ထွက်ခြင်းဆိုင်ရာ အမိန့်ပညတ်ချက်**

*အမေး။ ။လော့ဒေါင်းကာလတွင် လိုအပ်ချက်မရှိဘဲအပြင်ထွက်ခွင့် ရှိပါသလား?*

အဖြေ။ ။အစိုးရဘက်မှ လော့ဒေါင်း ချရခြင်း၏ ရည်ရွယ်ချက်မှာ အများပြည်သူအား ရောဂါပိုးကူးစက်ခြင်းမှ ကာကွယ်ရန်နှင့် မလိုလားအပ်သည့် ရှုပ်ထွေးမှုများမှ ထိန်းသိမ်းရန် ဖြစ်ပေသည်။ဤအတွက်ကြောင့် ပြည်သူ

တစ်ဦးချင်း တစ်ဦးချင်းအပေါ် အစိုးရဘက်မှ ပြဋ္ဌာန်းထားသော ဥပဒေ အပေါ်လိုက်နာကျင့်သုံးရန် အရေးကြီးပေသည်။အကယ်၍ လူတစ်ဦးသည် လိုအပ်ချက် မရှိဘဲ အပြင်သို့သွားရောက်သည်။သို့သော်ရောဂါပိုး မကူး စက်ရန် ကာကွယ်မှုများပြုလုပ်သည် ရှိသော် ထိုပုံစံတွင်ထိုသူသည် အစိုးရ ဘက်မှပြဋ္ဌာန်းထားသော ဥပဒေကိုချိုးဖောက်သောသူ ဖြစ်မည် ။အကယ်၍ ထိုသူသည်လိုအပ်ချက်မရှိဘဲ အပြင်သို့ ထွက်ပြီး ရောဂါပိုး မကူးစက်ရန် ကာကွယ်မှုလည်း မပြုလုပ်ပါက ထိုသူသည်အစိုးရဘက်မှ ပြဋ္ဌာန်းထားသော ဥပဒေကို ချိုးဖောက်ခြင်းနှင့်အတူ မိမိကိုယ်မိမိ ပျက်စီးမှုထဲသို့ ထည့်သည့် အတွက် ထိုသူမှာ အပြစ်ထိုက်သောသူ ဖြစ်ပေသည်။

## ကိုရိုနာ ဗိုင်းရပ်စ်ဖြင့် သေဆုံးသွားသူအား ရှဟီဒ်ဟုခေါ်ခြင်း?

*အမေး။(ကိုရိုနာ ဗိုင်းရပ်စ်ဖြင့် သေဆုံးသွားသူအား ရှဟီဒ်ဟုခေါ်ဆိုနိုင်ပါ သလား?)*

အဖြေ။ ရှဟီဒ်မှာ နှစ်မျိုးနှစ်စားရှိပေသည်။

(၁)(ရှဟီဒေဟကီးကီး ) အလ္လာဟ်ရှင်မြတ်၏ လမ်းတော်တွင် သာသနာ အတွက် ကြိုးပမ်း အားထုတ်ရင်း သတ်ဖြတ်ခြင်းခံရသူကို ဆိုလိုပေသည်။ ထိုရှဟီဒ်နှင့်စပ်လျဥ်း၍ အမိန့်ပညတ်ချက်များမှာ ၎င်းရှဟီဒ်ဖြစ် သေဆုံးသူ အား ရေချိုးပေးခြင်းနှင့် ကဖန် ဝတ်ပတ်ပေးခြင်းများ မပြုလုပ်ရပေ။

သို့သာမက ရှဟီဒ်ဖြစ်ချိန်တွင် ဝတ်ဆင်ထားသော အင်္ကျီဖြင့်သာ ဂျနာဇာဟ်နမားဇ်ဝတ်ပြု၍ မြုပ်နှံပေးရမည်။

(၂)(ရှဟီဒေဟုတ်က်မီ) သဘာဝသေခြင်းတရား မဟုတ်ဘဲ အခြားသော အကြောင်းခံတခုခုဖြင့် သေဆုံးသွားသူ။ပမာအားဖြင့် ဟဒီးဆ်တော်တွင် အမိန့်ရှိသည်မှာ ကပ်ဘေးရောဂါ၊ရေဌ နစ်မြုပ်၍၊ မီးတွင်လောင်ကျွမ်း၍၊

မိုက်အောင့်ရောဂါဖြင့် သေဆုံးသွားပါက ထိုသူသည် ရှဟီဒ် ဖြစ်ပေသည်။ ဤအတွက်ကြောင့် ကိုရိုနာဗိုင်းရပ်စ်ပိုးဖြင့် သေဆုံးသူသည် ဒုတိယရှဟီဒ် အမျိုးအစားတွင် ပါဝင်သည့် အတွက် ရှဟီဒ်ဟုခေါ်ဆိုနိုင်ပေသည်။ ထို ရှဟီဒ်အား ဂုစ္စလ်ရေချိုးပေးခြင်း၊ကဖန်ဝတ် ပတ်ပေးခြင်းနှင့် ဂျနာဇဟ် နမားဇ်ဝတ်ပြုပေးခြင်း အစရှိသော ကိစ္စများ ဆောင်ရွက်ပေးရမည် ဖြစ်သည်။

## ကိုရိုနာကပ်ဘေးကို(plague)ပုလိပ်ရောဂါနှင့်ခိုင်းနှိုင်းခွင့်ရှိပါသလား?

*အမေး။။ကိုရိုနာကပ်ဘေးကို(plague)ပုလိပ်ရောဂါနှင့်ခိုင်းနှိုင်းမည်ဆိုပါက မည်သို့ ရှိသနည်း?*

အဖြေ။ ။(plaguပုလိပ် ကပ်ဘေးရောဂါဖြင့် သေဆုံးသောသူသည် ရှဟီဒ်၏ အမိန့်တွင်ပါဝင်သကဲ့သို့ ကိုရိုနာကပ်ဘေးဖြင့်သေဆုံးသော သူသည်လည်း ရှဟီဒ်၏ အမိန့်တွင် ပါဝင်သည်ဟုခိုင်းနှိုင်း၍ ပြောဆိုနိုင်ပေသည်။ သို့သော်(plagu) ပုလိပ်ကပ်ဘေးရောဂါနှင့် ကိုရိုနာရောဂါအမျိုးအစား(၂) ခုမှာ တစ်ခုနှင့်တစ်ခု မတူသောကြောင့် ရောဂါတစ်ခုကို နောက်တစ်ခုနှင့် ဘက်ပေါင်းစုမှ ခိုင်းနှိုင်း၍ မပြောဆိုနိုင်ပေ။

## လက်ရှိ ကိုရိုနာကာလတွင် ဖြစ်ပေါ်နေသော အခြေနေ မျိုးတွင် အတိုးဖြင့် ချေးငွေ ယူပိုင်ခွင့်ရှိပါသလား?

*အမေး။ ။လက်ရှိကာလတွင် စီးပွားရေး ဂယက်ရိုက်ခတ်မှုများကြောင့် အလုပ်အကိုင် ဟူသမျှမှာ ကျဆင်းလျှက်ရှိသည်။ဤအတွက်ကြောင့် အလုပ်လုပ်ကိုင်ရန် ငွေမရှိသော အချိန်အခါတွင် ( သို့မဟုတ် ) စားသောက်ရန် ခက်ခဲသည့် အချိန်အခါတွင် အတိုးဖြင့် ချေးငွေ ယူခွင့် ရှိပါသလား?။*

အဖြေ။  ။သာမန်အခြေနေ မျိုးတွင် အတိုးဖြင့် ချေးငွေ ယူခြင်းကို (ဟရာမ်) တရားတော်မှ ပြင်းပြင်းထန်ထန် တားမြစ်ထားပေသည်။သို့သော် ယခု ကိုရိုနာကာလတွင် စီးပွားရေးဂယက် ရိုက်ခတ်နေသည့် အခြေနေမျိုးတွင် စီးပွားရေး ကျဆင်းမှုကြောင့် အလုပ်လုပ်ကိုင်ရန် ( သို့မဟုတ် ) စားသုံးရန် ငွေကြေး လိုအပ် နေလျှင်၊၎င်းနောက် အတိုးမဲ့ ချေးငွေပေးမည့်သူ မရှိလျှင်၊ ထိုနည်းတူစွာ အခြားသော ဟလာလ်နည်းလမ်းဖြင့် ငွေကြေး ရှာဖွေရန် မလွယ်ကူလှသည့် အခြေအနေမျိုးတွင် လက်ရှိမိမိလိုအပ်နေသော ငွေကြေး ပမာဏ အတိုင်းအတာအထိ အတိုးဖြင့်  ချေးငွေယူမည်ဆိုပါက ယူခွင့် ရှိပေသည်။

## လက်ရှိအခြေအနေတွင် လက်ဆွဲနှုတ်ဆက်ခြင်း ဆိုင်ရာ အမိန့်ပညတ်ချက်

*အမေး။  ယခုလို ကိုရိုနာကာလတွင် မုတ်စ်လင်မ် အချင်းချင်း လက်ဆွဲ နှုတ်ဆက် မည်ဆိုပါက မည်သို့ရှိသနည်း?*

အဖြေ။လက်ဆွဲနှုတ်ဆက်ခြင်းနှင့်စပ်လျဉ်း၍ ကြီးမားသောအကျိုး ကုသိုလ် ရရှိမည်ဖြစ်ကြောင်း ဟဒီဆ်တော်များတွင် မိန့်ကြားထားပေသည်။သို့သော် လက်ရှိ အခြေအနေတွင် ဗိုင်းရပ်စ်ပိုးသည် လက်များမှတဆင့်ကူးသည်ဟု သိရှိရသည်။ဤအတွက်ကြောင့် လက်ရှိအချိန်တွင် လက်ဆွဲနှုတ်ဆက်ခြင်းမှ ရှောင်ကြဉ်သင့်ပေသည်။

## လက်ရှိ ကိုရိုနာဗိုင်းရပ်စ်ကာလတွင် ဇနီးမယားနှင့် ပေါင်းသင်းဆက်ဆံခြင်းဆိုင်ရာအမိန့် ပညတ်ချက်

*အမေး။ လက်ရှိအချိန်တွင် နေ့စဉ်ရက်ဆက် ဗိုင်းရပ်စ်မှာ ပျံ့နှံ့လျက်ရှိသည်။ ဤအချိန် တွင် ချစ်ခင်ရင်းနှီးမှု ရှိသူများနှင့်ပင် ဝေးဝေးနေရန် မိန့်ကြား*

*မှုများကြား သိနေရသည်။ဤအတွက်ကြောင့် ယခုလိုအချိန်အခါမျိုးတွင် မိမိ၏ဇနီးနှင့် ပေါင်းသင်းခွင့်ရှိပါသလား?*

အဖြေ။အကယ်၍ အိမ်ရှိသူများအားလုံးသည် ကျန်းမာလျှက်ရှိပြီး ခင်ပွန်းနှင့် ဇနီးတွင်လည်း ရောဂါပိုးမရှိပါက ထိုအခြေနေတွင် ဇနီးမောင်နှံနှစ်ဦး ပေါင်းသင်းဆက်ဆံလိုပါက ဆက်ဆံနိုင်ပေသည်။ အကယ်၍ ဇနီး(သို့) ခင်ပွန်းတွင် ဗိုင်းရပ်စ်ပိုး (သို့) ဗိုင်းရပ်စ်ပိုးလက္ခဏာတွေ့ရှိပါက ထိုအချိန် တွင် ရှောင်ကြဉ်သောအနေဖြင့် သီးခြားနေရန် အရေးကြီးပေသည်။

## ဘေးဗလာကျရောက်နေသည့် နေရာဒေသများသို့ သွားရောက်ခွင့်ရှိပါသလား?

*အမေး။ ။ဘေးဗလာကျရောက်နေသည့် နေရာဒေသများသို့ သွားရောက် ခွင့် ရှိပါသလား?။*

အဖြေ ။ ။ လူသားသည် မိမိ၏ အသက်ဇီဝန် ထိန်းသိမ်းစောင့် ရှောက်ရမည်မှာ အစ္စလာမ်သာသနာ၏ အရေးကြီးသော ဥပဒေပြဋ္ဌာန်း ချက်ထဲမှ တစ်ခု ဖြစ်ပေသည်။ မိမိကိုယ်မိမိပျက်စီးခြင်းထဲ ထည့်ခြင်းကို အစ္စလာမ်သာသနာက တားမြစ်ထားလေသည်။( ကုရ်အာန် ၁:၁၉၅ )

ၶင်းနောက် ဟဒီဆ်တော်များတွင်လည်း ဘေးဗလာကျရောက်နေ သော ဒေသများသို့သွားရောက်ခြင်းမှ တားမြစ်ထားပေသည်။

## ကိုရိုနာ ဗိုင်းရပ်စ်ပိုးမှာ အလ္လာဟ်အရှင်မြတ်၏

## အမျက်ဒေါသဟုတ်/မဟုတ်?

*အမေး။ ။ကိုရိုနာ ဗိုင်းရပ်စ်ပိုးမှာ အလ္လာဟ်အရှင်မြတ်၏ အမြက်ဒေါ သလော?။*

အဖြေ ။ ။ကိုရိုနာ ဗိုင်းရပ်စ်နှင့် အခြားသော ဘေးဗလာများမှာ အလ္လာဟ် အရှင်မြတ်၏ အမြက်ဒေါသကြောင့်သာ ကျရောက်လာမည် ဟူ၍မရှိပေ။ သို့သာမကကပ်ရောဂါသည် အလ္လာဟ်အရှင်မြတ်ဘက်မှ ဗန်ဒဟ်(ကျေးကျွန်) အပေါ် ကရုဏာသက်ရောက်မှုဖြစ်ကြောင်း ဟဒီဆ်တော်များတွင် လာရှိပေ သည်။ထိုအချင်းရာနှင့် စပ်လျဥ်း ၍ အာအေရှဟ်( رضى الله عنها ) အမိန့် ရှိသည်။**ကျွန်မသည် ကိုယ်တော်မြတ်အား ကပ်ရောဂါနှင့် စပ်လျဥ်း၍ မေးမြန်းခဲ့ရာ ကိုယ်တော်မြတ်က အမိန့်ရှိသည်မှာ ကပ်ရောဂါသည် အလ္လာဟ်အရှင်မြတ်၏ အမြတ်ဒေါသဖြစ်လေသည်။ သို့သော် ထိုရောဂါအား အလ္လာဟ်အရှင်မြတ်သည် မုတ်စ်လင်မ်များအတွက် ကရုဏာတော် အဖြစ် ပြုလုပ်ထားပေသည်။အကြင်သူသည် ကပ်ရောဂါစွဲကပ်ခြင်းအပေါ် ခန္တီတရား ထားခဲ့လျှင် ၎င်းနောက် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား ဤရောဂါ စွဲကပ်ခြင်းနှင့် စပ်လျဥ်း၍ သတ်မှတ်ခဲ့သည်ဟူသော ယုံကြည်ချက် ထားခဲ့ပါက အကယ်၍ ထိုကပ်ဘေးရောဂါဖြင့် သေဆုံးသွားသည် ရှိသော် ထိုသူမှာ ရှဟီဒ်၏ အကျိုးကုသိုလ်ကို ရရှိမည်ဖြစ်သည်။**(ဗိုခါရီကျမ်း ဟဒီဆ်အမှတ် ၅၇၈၃ )

၎င်းနောက်ကပ်ရောဂါဖြင့် ဆွဟာဗဟ်သာဂက အများစုသည်လည်း ရှဟီးဒ် ဖြစ်ခဲ့ပေသည်။ဤအတွက်ကြောင့် ကပ်ရောဂါအား အလ္လာဟ်အရှင် မြတ်၏ အမြတ်ဒေါသ ဖြစ်သည်ဟု ပြောဆို ခြင်းသည် မှန်ကန်မှုမရှိပေ။ သို့သော် ဤရောဂါဗလာသည် လူသားအား မိမိ၏ဖန်ဆင်းရှင် (အလ္လာဟ် အရှင်မြတ်)ဘက်သို့ လှည့်ရန်၊သတိရရန်၊၎င်းနောက် မိမိ၏အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံရန် အခွင့်အလမ်း ပေးလေသည်။

အကယ်၍ လူသားသည် ဤ ကဲ့သို့သော် အခြေနေမျိုးတွင် အလ္လာဟ် အရှင်မြတ်၏ ဘက်သို့ လှည့်ခဲ့ပါက မုချ ထိုသူ့အတွက် ထိုကပ်ဘေးမှာ ကရုဏာတော်ဖြစ်သည်။အကယ်၍ ဤကဲ့သို့သော အခြေနေမျိုး၌ပင်လျှင် လူသားသည် အလ္လာဟ်အရှင်မြတ်၏ ဘက်သို့ လှည့်ပြန်ခြင်းမရှိပါက ထိုသူ့အတွက် ထိုကပ်ရောဂါမှာ ပြစ်ဒဏ် ဖြစ်ပေသည်။

**အချုပ်အားဖြင့်** ပြောရလျှင် ဤ ကပ်ဘေးသည် ပြစ်မှုဒုစရိုက် ကျူးလွန်သူများအတွက် အလ္လာဟ်အရှင်မြတ်၏ သတိပေးမှုတစ်ခုဖြစ်ပြီး အလ္လာဟ် အရှင်မြတ်၏ ကောင်းမွန်သော (ဗန်ဒဟ်)ကျေးကျွန်များအတွက် အလ္လာဟ် အရှင်မြတ်၏ ကရုဏာတော်ဖြစ်လေသည်။

## မွတ်စ်လင်မ်မဟုတ်သူများအတွက် ကျန်းမာရေးရရှိရန် ဒိုအာပြုခြင်း

*အမေး။ ။ မွတ်စ်လင်မ်မဟုတ်သူများအတွက်ကျန်းမာရေး ရရှိရန် ဒိုအာ ဆုမွန် တောင်းခွင့် ရှိပါသလား?။*

အဖြေ ။ ။ ရှိရှိသမျှသော ကပ်ရောဂါသည်များအတွက် ကျန်းမာရေးရ ရှိရန် ဆုမွန်ဒိုအာ တောင်းမည်ဆိုပါက တောင်းခွင့်ရှိသည်။လက်ရှိ အခြေ နေတွင် ဤကပ်ဘေးကြီးမှ လွတ်မြောက်ခွင့်ရရှိရန် ဆုမွန်ကောင်းတောင်း သင့်ပေသည်။ဤအခြေနေတွင် သူဆင်းရဲ သူဌေး၊ မွတ်စလင်မ် ကာဖိရ် အားလုံးအတွက် ကျန်းမာရေးရရှိရန် ဆုမွန်ကောင်း တောင်းသင့်ပေသည်။

## ကိုရိုနာ ကပ်ဘေးကြီး ချုပ်ငြိမ်းသွားရန် ဒိုအာအေ ကူနူသ် ဖတ်ခြင်းဆိုင်ရာ အမိန့်ပညတ်ချက်

*အမေး ။ ။ ကိုရိုနာ ကပ်ဘေးကြီး ချုပ်ငြိမ်းသွားရန် ဒိုအာအေ ကူနူသ် ဖတ်ခွင့်ရှိပါသလား?။*

အဖြေ ။ ။ ဟဒီဆ်တော်အရ ကပ်ဘေးကာလတွင် ဒိုအာအေ ကူနူသ် ဖတ်မည်ဆိုပါက ဖတ်ခွင့်ရှိပေသည်။ကိုရိုိနာ ဗိုင်းရပ်စ်ပိုးသည်လည်း ကပ်ဘေးရောဂါ ဖြစ်သည့်အတွက် ဤကဲ့သို့အခြေနေမျိုးတွင် ဒိုအာအေ ကူနူသ် ဖတ်သင့်ပေသည်။**ဟာနဖီ** လမ်းစဉ်တွင် ဖဂျရ်နမာဇ်၌သာ ဒိုအာအေ ကူနူးသ်ဖတ်ခွင့်ရှိသည့်အတွက် ဟာနဖီများမှာ ဖဂျရ်နမာဇ်၌သာ ဒိုအာအေ ကူနူးသ် ဖတ်ရမည်ဖြစ်သည်။

## ကိုရိုနာ ဗိုင်းပ်စ်ပိုးရှိသူမှ အခြားသူအား ရောဂါပိုး ကူးစက် အောင်ပြုလုပ်ခြင်း

*အမေး။ ။ ကိုရိုနာရောဂါသည် သည်အခြားသူအား ရောဂါပိုးကူးစက် အောင် ပြုလုပ်ကာ ထိုရောဂါကူးစက်ခံရသူမှာ အကယ်၍ သေဆုံးသွား သည်ရှိသော် ကူးစက်အောင် ပြုလုပ်သူအားသာသနာ့ရှုထောင့်အရ လူသတ် သမားဟု ခေါ်ဆိုနိုင်ပါသလား?*

အဖြေ။ ။အကယ်၍ လူတစ်ယောက်သည် ကိုရိုနာဗိုင်းရပ်စ် ကူးစက်ခြင်း ခံရပါက ထိုသူသည် အခြားသူများနှင့်ရောနှော နေထိုင်မှုမပြုရန် အရေး ကြီးပေသည်။အကယ်၍ ထိုရောဂါသည်သည် ရည်ရွယ်ချက်ရှိရှိ အခြား သူအား ကူးစက်အောင် ပြုလုပ်လိုက်လျှင် ထိုပုံစံတွင် ကူးစက်ခံရသူမှာ သေဆုံးသွားသည်ရှိသော် ကူးစက်အောင်လုပ်သူမှာ အပြစ်ထိုက်သူ ဖြစ်ပေမည်။ဟာနဖီ ဖေကာဟ် ပညာရှင်များက ရေးသားဖော်ပြသည်မှာ အကြင်သူသည် မိမိမှာ ကပ်ရောဂါ စွဲကပ်ခြင်း ခံထားရသည်ကို သိပါလျှက်

အခြားနေရာဒေသသို့ သွားရောက်၍ အခြားသူအား ကပ်ရောဂါ စွဲကပ်အောင် ပြုလုပ်ခဲ့ပါက အကယ်၍ထိုကူးစက်ခံရသူမှာသေဆုံးသွားသည်ရှိသော် ကူးစက်အောင်ပြုလုပ်သူမှာ အကြောင်းခံ တစ်ခုနှင့် သတ်ဖြတ်သောသူစာရင်း၌ ဝင်သွားပေသည်။

ဤ အတွက်ကြောင့် ကူးစက်အောင်ပြုလုပ်သူသည် ကူးစက်ရောဂါနှင့် သေဆုံးသွားသော မိသားစုအတွက် လျော်ကြေး ပေးဆောင်ရမည်။

## ဘဏ်အတိုးဖြင့် အခြားသူအားကူညီခွင့်ရှိပါသလား?

*အမေး။လက်ရှိအခြေအနေတွင် ဘဏ်တိုးဖြင့် အခြားသူအား ကူညီခွင့်ရှိပါသလား?*

အဖြေ။ဇကားသ်စားထိုက်သူများကို ဘဏ်အတိုးဖြင့် (ဆဝါဗ်)အကျိုးကုသိုလ်ရယူရန် ရည်စူးမှုမပြုဘဲ ကူညီခွင့်ရှိလေသည်။ထိုနည်းတူစွာ ထိုပိုက်ဆံဖြင့် မုတ်စ်လင်မ်မဟုတ်သူများကိုလည်း ကူညီနိုင်ပေသည်။

## (၇)ဆောင်ရန်ရှောင်ရန်နှင့် တောင်းဆုဒိုအာများ အခန်းကဏ္ဍ

## မုအ်မင်န်(၁)ယောက် ကြိုတင်ပြင်ဆင်ထားသင့်သော လက်နက်(၇)ခု

လက်ရှိအခြေအနေတွင် ဗိုင်းရပ်စ်ပိုး ကူးစက်မှုကြောင့်လူအများစုမှာ စိုးရိမ်ထိတ်လန့်လျက်ရှိသည်။ ဤသို့သော်အခြေအနေတွင် ကျွန်ုပ်တို့သည် ဖန်းဆင်းရှင်(အလ္လာဟ်အရှင်မြတ်)အပေါ်ပြည့်ပြည့်ဝဝယုံကြည်မှု ထားသင့်ပေသည်။ဤစကြာဝဠာတွင်ဖြစ်ပျက်မှု ဟူသမျှသည် အလ္လာဟ်အရှင် မြတ်၏ ဆန္ဒအမိန့်တော်အတိုင်းသာ ဖြစ်လေသည်။ထိုအရှင်သည် ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံသောအရှင်သခင် ဖြစ်ပေသည်။ ဤအတွက်ကြောင့် ထိုအရှင်သခင်သည် လူသားတို့၏ ကောင်းကျိုးအတွက်သာ အရာရာကို

ဖြစ်စေလေသည်။အထက်၌ဖော်ပြခဲ့သော ယုံကြည်ချက်အား ကျွန်ုပ်တို့၏ စိတ်နှလုံးအတွင်း၌ ထည့်သွင်းပြီးနောက် ကျွန်ုပ်တို့သည် အလ္လာဟ် အရှင်မြတ်နှင့် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ် မုဟမ္မဒ်( صلى الله عليه وسلم) မှ လမ်းညွှန်ပြသထားသော ကြိုတင်ကာကွယ်ခြင်းနှင့် ကျင့်စဉ်များကို ဂရုတစိုက် ပြုလုပ်မည်ဆိုပါက အမျိုးမျိုးသော ဘေးဒုက္ခပေါင်းစုံမှ ကင်းလွတ်ကာ ယခုကြုံတွေ့နေရသော ပူဆွေးသောကများမှ ကိုယ်စိတ်နှလုံးအေးချမ်းမှုရမည်ဖြစ်သည်။

## မုအ်မင်န်(၁)ယောက် ကြိုတင်ပြင်ဆင်ထားသင့်သော လက်နက်(၇)ခုမှာ

### (၁)သောင်ဗဟ်၊အိစ်သိဂ်ဖာရ်

အလ္လာဟ်အရှင်မြတ်သည် များသောအားဖြင့် လူသားတို့၏ပြစ်မှုဒုစရိုက်များကြောင့် ဘေးဗလာများကိုစေလွှတ်လေ့ရှိသည်။ အလ္လာဟ် အရှင်မြတ်ထံပါးတွင် စိတ်ရောကိုယ်ပါမိမိ၏အပြစ်များအား လွတ်ငြိမ်းချမ်းသားခွင့် တောင်းခံခြင်းဖြင့် အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏အပြစ်များအား ခွင့်လွှတ်ပလပ် ပေးမည်ဖြစ်သည်။ထိုကဲ့သို့သော အမှားဝန်ခံမှုကြောင့် နောက်နောင် ကျရောက်လာမည့် ဘေးဗလာများမှာ ဝေးကွာသွား ပေမည်။တမန်တော်မုဟမ္မဒ်(صلى الله عليه وسلم) အမိန့်ရှိသည်မှာ အကြင်သူသည် အလ္လာဟ်အရှင်မြတ်ထံပါး၌ (သောင်ဗဟ်)အမှားဝန်ချတောင်းပန်မှုကိုမြဲမြံစွာဆုပ်ကိုင်ထားမည် ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် ကျပ်တည်း မှုအလုံးစုံမှ လွတ်မြောက်ရာ နည်းလမ်းကို ပြုလုပ်ပေးမည်ဖြစ်သည်။၎င်းနောက်ထိုသူအား ပူဆွေးသောကအလုံးစုံမှလွတ်မြောက်စေမည်။၎င်းနောက်ထိုသူ မထင်မှတ်ထားသည့်နေရာမှ စားနပ်ရိက္ခာကို ချီးမြှင့်ပေးသနားတော်မူမည် ဖြစ်သည်။(အဗူဒါဝူဒ်ကျမ်း)

## (၂)(သက်ဝါ) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ခြင်း

ပြစ်မှုအလုံးစုံမှ ဝန်ချတောင်းပန်ပြီးနောက် အလ္လာဟ်အရှင်မြတ် ခိုင်းထားသောအရာဟူသမျှအပေါ်လိုက်နာရန်နှင့်ပြစ်မှုအလုံးစုံမှ ရှောင်ကြဉ်ရန်အရေးကြီးပေသည်။ကျမ်းမြတ်ကုရ်အာန်တွင် အလ္လာဟ်အရှင် မြတ်အမိန့်ရှိသည်မှာ -စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင် မြတ်အား ကြောက်ရွံ့သည်ရှိသော် ထိုအရှင်မြတ်သည် ထိုသူတို့အဖို့ လွတ်မြောက်ရာနည်းလမ်းကို ပြုလုပ်ပေးသနားတော်မူပါသည်။ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ထိုသူအားထိုသူမထင်မှတ်သောနေရာမှ စားနပ် ရိက္ခာကိုချီးမြှင့်ပေးသနားတော်မူသည်။(ကုရ်အာန်ကျမ်း၆၅ / ၂_၃)

## (၃)ဒိုအာ ဆုမွန်ကောင်း တောင်းခံခြင်း

ဒိုအာတောင်းခံခြင်းသည်ကျရောက်နေသော ဘေးဗလာများကိုသာမက နောက်ကျရောက်မည့်ဘေးဗလာများကိုပါ ဖယ်ရှားစေမည့်အကြောင်းခံ ဖြစ်ပေသည်။တမန်တော်မြတ်(صلى الله عليه وسلم)အမိန့်ရှိသည်မှာ ဒိုအာ သည်ကျရောက်လျှက်ရှိသော ဘေးဒုက္ခ ကာလတွင် ကောင်းကျိုးပြုသကဲ့သို့ နောက်ကျရောက်မည့်ဒုက္ခကာလတွင်လည်း ကောင်းကျိုးပြုလေသည်။

ဤအတွက်ကြောင့် အိုအလ္လာဟ်အရှင်မြတ်၏ ကျေးကျွန်အပေါင်းတို့ အသင်တို့ဒိုအာဆုမွန်ကောင်းတောင်းခံခြင်းကို မြဲမြံစွာဆုပ်ကိုင် ထားကြ လေကုန်။

## (၄)(ဆွဒ်ကဟ်)အလှူဒါနလုပ်ခြင်း

အလှူဒါနသည်လည်း ယခုကြုံတွေ့နေရသော ဘေးဗလာဒုက္ခအလုံးစုံ တို့အား ဖယ်ရှားပေးမည့် အကြောင်းခံဖြစ်ပေသည်။၎င်းနောက် နောင်

လာမည့်ဒုက္ခအလုံးစုံအား တားဆီးပေးမည့်အကောင်းဆုံးသော အကြောင်းခံ တစ်ခုဖြစ်လေသည်။

တမန်တော်မြတ်မုဟမ္မဒ် ﷺအမိန့်ရှိသည်မှာ အသင်တို့သည်အလှူ ဒါနလုပ်ခြင်းဖြင့် မိမိတို့၏ရောဂါသည်များကို ဆေးကုသမှုပြုကြလေကုန်။ အလှူဒါနပြုရာတွင် ဆိုင်းတွမှုမပြုဘဲ လျင်မြန်စွာပြုလုပ်ကြလေကုန်။ အဘယ်ကြောင့်ဆိုသော်အလှူဒါနကြောင့် ဘေးဗလာများသည် တိုးပွား ခြင်းမရှိ ပေ။(တွဗ်ရာနီကျမ်း)

## (၅)ဆွဗရ်(ခန္တီတရား)ထားခြင်း

ခန္တီတရား(သည်းခံမှုသိပ်ခြင်း)ကြောင့်အလ္လာဟ်အရှင်မြတ်ဘက် တော်မှ အကူအညီများရရှိပြီး ဘေးဗလာများ ဝေးကွာသွားလေသည်။ အလ္လာဟ် အရှင်မြတ်အမိန့်ရှိသည်မှာ မုချ အလ္လာဟ်အရှင်မြတ်သည် ခန္တီတရားထားသူ များနှင့်အတူရှိသည်။(ကုရ်အာန် ၂/၁၅၃)

## (၆)နမာဇ်ဝတ်ပြုခြင်း

သည်းခံမှုသိပ်ခြင်းသကဲ့သို့နမာဇ်ဝတ်ပြုခြင်းသည်လည်းအလ္လာဟ် အရှင်မြတ်၏အကူအညီများကို ရယူရာတွင် အလွန်စူးရှထိရောက်သော အကြောင်းခံဖြစ်လေသည်။အလ္လာဟ်အရှင်မြတ်အမိန့်ရှိသည်မှာ အသင်တို့ သည်ခန္တီတရားဖြင့်လည်းကောင်း၊ဆွလာသ်ဝတ်ပြုခြင်းဖြင့်လည်းကောင်း အလ္လာဟ်အရှင်မြတ်ထံတော်မှအကူအညီအထောက်အပံ့ကိုတောင်းယူကြ ကုန်။(ကုရ်အာန် ၂/၄၅)

## (၇)ဇိကိရ်(အလ္လာဟ်အရှင်မြတ်ကိုသတိရတသခြင်း)

အလ္လာဟ်အရှင်မြတ်ကိုသတိရတသခြင်းဖြင့်အလ္လာဟ်အရှင်မြတ်၏ အာရုံတော်သည် ထိုသူ့ဘက်သို့လှည့်တော်မူလေသည်။၎င်းနောက်ထိုသူအ တွက်အလ္လာဟ်အရှင်မြတ်၏အကူအညီနှင့်အလ္လာဟ်အရှင်မြတ်၏ကရုဏာ

တော်တံခါးများပွင့်သွားပေသည်။ဟဒီဆေကုဒုဆီတွင် အလ္လာဟ်အရှင်မြတ်မိန့်တော်မူသည်မှာ ငါအလ္လာဟ်အရှင်မြတ်သည် ထိုသူနှင့် အတူရှိသည်။အကြင်သူ၏နှုတ်လျှာမှာငါအလ္လာဟ်အရှင်မြတ်၏သတိရတသမှုကြောင့် လှုပ်ရှား၍နေလေသည်။(အိဗ်နေဟိဗ္ဗာန်)

အထက်ဖော်ပြပါ(၇)မျိုးသောအရာများ သောင်ဗဟ်၊သက်ဝါ၊ဒိုအာ၊ ဆွဒ်ကဟ်၊ခဋ္ဌိတရား၊နမာဇ်နှင့်ဇကိရ်အား အမျိုးသား၊အမျိုးသမီး လူကြီး၊ လူငယ်၊ကျန်းမားသူ၊ရောဂါသည်၊အားလပ်သူ၊မအားလပ်သူ အစရှိ သူများ အားလုံးမှာ ထိုအမလ်ကျင့်စဉ်များကို လွယ်ကူစွာလုပ်ဆောင်နိုင်ပေသည်။ ထို(၇)မျိုးသောအရာများအပေါ်လိုက်နာကျင့်ကြံသောသူသည်အမျိုးမျိုးသော ဘေးဗလာများမှကင်းလွတ်ခွင့်ရမည်ဖြစ်သည်။အကယ်၍တစ်စုံတစ်ခု(သို့)ပူဆွေးသောက ဆိုက်ရောက်လာမည်ဆိုလျှင် ထိုသူမှာ စိတ်ချမ်းသာမှု ရရှိမည်ဖြစ်သည်။၎င်းနောက်ထိုသူမှာ စိုးရိမ်ထိတ်လန့်မှု တစ်စုံတစ်ရာနှင့်မျှကြုံ တွေ့ရမည်မဟုတ်ပေ။

## ဘေးဗလာများမှ လုံခြုံမှုရရန် မနက်၊ညနေတောင်းခံရမည့် ဆုမွန်ဒိုအာများ

### (၁)မနက်၊ညနေ(၃)ကြိမ်တောင်းခံရန်ဒိုအာ

بِسْمِ اللَّهِ الَّذِي لَا يَضُرُّ مَعَ اسْمِهِ شَيْءٌ فِي الْأَرْضِ وَلَا فِي السَّمَاءِ وَهُوَ السَّمِيعُ الْعَلِيمُ

အဓိပ္ပါယ်။။ထိုအလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့်(နံနက်(သို့)ညနေ)အချိန်အား ဖြတ်သန်းပါသည်။ အကြင်အရှင်၏ နာမတော်အကြောင်းခံဖြင့် မိုးကောင်းကင်နှင့်မြေပထဝီတွင်မည်သူမှ ထိခိုက်နစ်နာအောင် မပြုလုပ်နိုင်ပေ။ထိုအလ္လာဟ်အရှင်မြတ်သည်အလုံးစုံတို့ကိုအကြွင်းမရှိကြားတော်မူသောအရှင်၊အရာခပ်သိမ်းကိုအကြွင်းမဲ့သိတော်မူသောအရှင်ဖြစ်ပေသည်။

***ဤဒိုအာ၏အကျိုးကျေးဇူး**နှင့်စပ်လျဉ်း၍ တမန်တော်မြတ်(မုဟမ္မဒ် ﷺ အမိန့်ရှိသည်မှာ ထိုဒိုအာကိုဖတ်သောသူသည် ရုတ်တရက်ကျရောက်လာမည့် ဘေးဒုက္ခမှကာကွယ်မှုရရှိပေမည်။*

## ( ၂ ) ဤဒိုအာကို မနက်၊ညနေ အနည်းဆုံး တစ်ကြိမ် ဖတ်ရွတ်ပါ။

بِسمِ اللّٰہِ عَلٰی نَفسِي وَدِينِي، بِسمِ اللّٰہِ عَلٰي مَاأَعطَانِي رَبِّي عَزَّوَجَلَّ،بِسمِ اللّٰہِ عَلٰي أَهلِي وَمَالِي،اَللّٰہُ أَكبَرُ ،اَللّٰہُ رَبِّي،اَللّٰہُ أَكبَرُ ،اَللّٰہُ رَبِّي،لَاأُشرِكُ به شَيئًا،أَجِرنِي مِن كُلِّ شَيطَانِ الرّجِيم،ومِن كُلّ جَبَّارٍ عَنِيدٍ،إِنَّ وَلِيِّيَ اللَّهُ الَّذِي نَزَّلَ الْكِتَابَ ۖ وَهُوَ يَتَوَلَّى الصَّالِحِينَ ،فَإِن تَوَلَّوْا فَقُلْ حَسْبِيَ اللَّهُ لَا إِلَٰهَ إِلَّا هُوَ ۖ عَلَيْهِ تَوَكَّلْتُ ۖ وَهُوَ رَبُّ الْعَرْشِ الْعَظِيمِ(129)

## ဒိုအာ၏ အကျိုးကျေးဇူး

*ဤဒိုအာကို ဖတ်သောသူသည် ဆုံးရှုံးမှုအလုံးစုံမှ ထိန်းသိမ်းမှုရမည်ဟု တမန်တော်မြတ် မုဟမ္မဒ် ﷺ က ကတိပြုထားလေသည်။*

## ( ၃ ) ဤ ဒိုအာကို မနက်၊ညနေ တစ်ကြိမ်စီ ဖတ်ပါ။

سُبْحَانَ اللَّهِ وَبِحَمْدِهِ، لَا قُوَّةَ إِلَّا بِاللَّهِ، مَا شَاءَ اللَّهُ كَانَ وَمَا لَمْ يَشَأْ لَمْ يَكُنْ، أَعْلَمُ أَنَّ اللَّهَ عَلَى كُلِّ شَيْءٍ قَدِيرٌ، وَأَنَّ اللَّهَ قَدْ أَحَاطَ بِكُلِّ شَيْءٍ عِلْمًا،

## ဒိုအာ၏ အကျိုးကျေးဇူး

*ဤဒိုအာကို နံနက်အချိန်တွင်ဖတ်သူသည် ညနေ အချိန်ထိ လုံခြုံ မှု ရရှိမည်။ ၎င်းနောက် ညနေအချိန်၌ ဖတ်သူသည် မနက်အချိန်ထိ လုံခြုံ မှု ရရှိမည် ဖြစ်သည်။*

## (၄)လူတစ်ဦးဦးအား ဒုက္ခတစ်စုံတရာ ( သို့မဟုတ် ) ပူဆွေးသောကန္ဒ တွေ့ရှိလျှင် ( သို့မဟုတ် ) လူတစ်ယောက် ဒုက္ခရောက်နေသည်ကို သရှိရပါက ဤ ဒိုအာကို ဖတ်ပါ။

الْحَمْدُ لِلَّهِ الَّذِي عَافَانِي مِمَّا ابْتَلاَكَ بِهِ وَفَضَّلَنِي عَلَى كَثِيرٍ مِمَّنْ خَلَقَ تَفْضِيلاً

## ဒိုအာ၏ အကျိုးကျေးဇူး

*အကြင်သူသည် လူတစ်ဦးဦးကို ပူဆွေးသောက တစ်စုံတရာ၌ တွေ့ရှိလျှင် ( သို့မဟုတ် ) ကြားသိချိန်တွင် ဤ ဒိုအာကို ဖတ်မည်ဆိုပါက ထိုသူသည် ဘေးဒုက္ခမှ ထိန်းသိမ်းမှုရရှိမည်ဖြစ်ကြောင်း တမန်တော်မြတ် မုဟမ္မဒ် ﷺက ကတိပြုထားလေသည်။*

## ( ၅ ) နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

يَا حَيُّ يَا قَيُّومُ، بِرَحْمَتِكَ أَسْتَغِيثُ،

## ( ၆) နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

اللَّهُمَّ إِنِّي أَسْأَلُكَ العفوَ الْعَافِيَةَ  فِي دِينِي وَدُنْيَايَ وَأَهْلِي وَمَالِي

## ( ၇ ) နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

اللَّهُمَّ إِنِّي أَعُوذُ بكَ مِن زَوَالِ نِعْمَتِكَ، وَتَحَوُّلِ عَافِيَتِكَ، وَفُجَاءَةِ نِقْمَتِكَ، وَجَمِيعِ سَخَطِكَ

## ( ၈ )နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

اللهمَّ إنِّي أعُوذُ بِكَ مِنْ جَهْدِ الْبَلَاءِ، وَدَرَكِ الشَّقَاءِ، وَسُوءِ الْقَضَاءِ، وَشَمَاتَةِ الْأَعْدَاءِ

## ( ၉ )နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

اللَّهُمَّ احْفَظْنِي مِنْ بَينِ يَدَيَّ ، وَمِنْ خَلْفِي، وَعَنْ يَمِينِي، وَعَنْ شِمَالِي، وَمِنْ فَوْقِي، وَأَعُوذُ بِعَظَمَتِكَ أَنْ أُغْتَالَ مِنْ تَحْتِي

## ( ၁၀ ) နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

اللَّهُمَّ إِنِّي أَعُوذُ بِكَ مِنَ الْبَرَصِ، وَالْجُنُونِ، وَالْجُذَامِ، وَمِنْ سَيِّئِ الأَسْقَامِ

## ( ၁၁ ) ဤဒိုအာကို မနက်၊ညနေ တစ်ကြိမ်စီ ဖတ်

أَعُوذُ بِكلِمَاتِ الله التّامّاتِ مِن شَرّ مَا خَلَقَ

## ( ၁၂)နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

اللَّهُمَّ لاَ تَقْتُلْنَا بِغَضَبِكَ وَلاَ تُهْلِكْنَا بِعَذَابِكَ وَعَافِنَا قَبْلَ ذَلِكَ

## ( ၁၃) ဤဒိုအားကို နေ့စဉ် အနည်းဆုံး အကြိမ်(၁၀၀)ဖတ်ပါ

لَا إِلَهَ إِلَّا أَنْتَ سُبْحَانَكَ إِنِّي كُنْتُ مِنَ الظَّالِمِينَ

## ဤဒိုအာ၏ အကျိုးကျေးဇူး

*တမန်တော် ယူနွစ်(အလိုင်ဟိစ္စလာမ်)သည် ငါး၏ဝမ်းဗိုက်အတွင်း အမျိုခံရချိန် ထိုဒုက္ခမှ မည်သည့်နည်းနှင့်မျှ လွတ်မြောက်မှု မရတော့သည့် အခါ၌ ထိုဒိုအာကို ရွတ်ဆိုခဲ့သည်။၎င်းနောက် ထိုဒိုအာ၏ အကြောင်းခံဖြင့် အလ္လာဟ်အရှင်မြတ်၏ ကူညီမှုကိုရရှိကာ ကြုံ တွေ့နေရသည့်ဘေးဒုက္ခမှ လွတ်မြောက်မှုရရှိခဲ့သည်။*

## ( ၁၄ ) နေ့စဉ် ဖတ်ရွတ် တောင်းဆိုရန်

ဤဒိုအာကို ဘေးဗလာကာလတွင် ဖတ်ရွတ်မည်ဆိုပါက အလွန်စူးရှထိ ရောက်မှုရရှိမည်ဖြစ်သည်။အိဗ်ရာဟီမ်(အလိုင်ဟိစ္စလာမ်)သည် မီးပုံထဲ ပစ်ချခြင်းခံရသည့်အချိန်တွင် ဤဒိုအာဖြင့် အလ္လာဟ်အရှင်မြတ်၏ ဖေးမ ကူညီမှုကို ရယူခဲ့သည်။

حَسْبُنَا اللهُ وَنِعْمَ الْوَكِيلُ

## အိုလမာ သာသနာ့ပညာရှင်များထံမှ လမ်းညွှန်မှုရယူပါ

ကျွန်ုပ်တို့သည် လုပ်ငန်းဟူသမျှအား အလ္လာဟ်အရှင်မြတ်၏ ကျေနပ် နှစ်သက်မှုနှင့်အညီ ပြု လုပ်နိုင်ရန် ၎င်းနောက် အလ္လာဟ်အရှင်မြတ်၏

မနှစ်မြို့မှုမှ ရှောင်ကြဉ်ရန် အလွန်မှအရေးကြီးလှပေသည်။ ဤအတွက်ကြောင့် မည်သည့်အလုပ်ကိုမဆို မလုပ်မီအလျင် မိမိတို့၏ နေရာဒေသရှိ အိုလမာ သာသနာ့ပညာရှင်များ ၊မုဖ်သီဆတ်များနှင့် အဆက်သွယ်လုပ်ကာ ၎င်းတို့ ထံမှ လမ်းညွှန်မှုရယူရန် အရေးကြီးပေသည်။

## ကျန်းမာရေး အသိပေးမှုများနှင့် အုပ်ချုပ်သူများ၏ လမ်းညွှန်မှုများအပေါ် လိုက်နာမှုပြုပါ

အထက်၌ ဖော်ပြခဲ့သည့် (၇)မျိုးသော ကျင့်စဉ်နှင့် တောင်းဆုများ အပေါ် ယုံကြည်ချက်ထားကာ လိုက်နာကျင့်သုံးလျှက် ကျန်းမာရေး ဝန်ကြီးဌာနနှင့် အုပ်ချုပ်သူများ၏ လမ်းညွှန်မှုများအပေါ်၌လည်း လိုက်နာရန် အရေးကြီးလေသည်။

၎င်းနောက် ကျွန်ုပ်တို့သည် မိမိကိုယ်မိမိနှင့် အခြားသူများကိုလည်း ဘေးဆိုးကြီးမှကာကွယ်ရန် ၎င်းနောက် အခြားသူများကို ခက်ခဲမှု တစ်စုံတရာ ( သို့မဟုတ် ) ပူဆွေးသောက မရောက်ရလေအောင် နေထိုင် သွားလာရမည်မှာ ကျွန်ုပ်တို့၏ တာဝန်သာ ဖြစ်ပေသည်။

ဤအတွက်ကြောင့် ကျွန်ုပ်တို့သည် နေ့စဉ်နှင့်အမျှ လမ်းညွှန်မှုများ အပေါ် နားစွင့်၍ ထိုအပေါ်လိုက်နာ ဆောင်ရွက်ရန် အရေးကြီးပေသည်။

## ကိုးကား

| عالمی وبا کروناوائرس اوراحکام ومسائل (مفتی شبیر احمد عثمانی حفظہ اللہ) |
| --- |
| کروناوائرس، اسلامی ہدایات اورجدیدمسائل<br>مولاناامانت علی قاسمی(حفظہ اللہ)استادومفتی دارالعلوم وقف ، دیوبند |
| کروناوائرس اوربیماری زمہ داری (مولانامحمد سلیم دھورات (حفظہ اللہ) |
| ဖသ်ဝါ ဓမ္မသတ်အမှတ် ၆၈၁ ဓမ္မသတ်ဌာန ဂျမေအဟ် ဒါရှုလ်အူလူမ် ဒေယိုဗန်ဒ် အိန္ဒိယ |
| ဓမ္မသတ်အမှတ်၆၄/၂၁၅၅<br>ဓမ္မသတ်ဌာန ဂျမေအဟ် ဒါရုလ်အိုလူမ် ကရာချီ ပါကစ္စတန် |
| ဓမ္မသတ်အမှတ်၁၄၄၁၀၉၂၀၀၃၁ဂျာမေအဟ် အူလူမေ အစ္စလာမိယဟ် ပါကစ္စတန် |
| စာအမှတ်-အ-၆/၀၄၉/၂၀၂၀<br>အိုလမာ-အစ္စလာမ်သာသနာ့ ပညာရှင်များ အဖွဲ့ချုပ် ရန်ကုန် |
| ဓမ္မသတ်အမှတ်စဉ် ( ၃၈ )တွဲ ၇)<br>ဓမ္မသတ်ဌာန ဂျာမေ့အသွလ်ကောင်ဆရစ်လ်အစ္စလာမီယဟ် |

**الحمدلله علي كل حال أعوذ بالله من حال النار**

**اللهم صلي علي سيدنامحمدوعلي آل سيدنامحمدوبارك وسلم**






# တမန်တော်မြတ်မုဟမ္မဒ် (ﷺ)၏

# အတ္ထုပ္ပတ္တိအကျဉ်း

ဘာသာပြန်ဆိုသူ

မုဖ်သီ မုဟမ္မဒ် အုဆ်မာန် ဂနီ ကမာရွတ်

ဘွဲ့ရ ဂျာမိအဟ် ဒါရွလ်အုလူမ် ကရာချိ ပါကစ္စတန်

ကျောင်းဆရာ မဒ်ရစဟ် ယူစွဖ် အဟ်မဒ် မာမ်ဆာ

ကျောက်မြောင်း

# သားကောင်လည်လှီးခြင်းနှင့်သက်ဆိုင်သော အဓိပ္ပါယ်ချက်များ နှင့် စားပိုင်/မစားပိုင်သတ္တဝါများ




တည်းဖြတ်သူ

၁။ ဟာဖိဇ် မော်လာနာ မုဖ်သီ မုဟမ္မဒ် အိဒ်ရီးစ် (ဆွာဟိဗ်) (မဇ္ဇာဟေရီ)

၂။ မုဖ်သီ အုမရ် ဆွာဟိဗ် (ပုသိမ်)

၃။ မော်လာနာ အုဆ်မာန် ဆွာဟိဗ် (ရန်ကုန်)

ပြုစုရေးသားသူ

မုဖ်သီ အုဆ်မာန် ဂနီ(ကာမာရွတ်)

(ဘွဲ့ရ )ဂျာမေအဟ် ဒါရုလ်အုလူးမ်(ကရာချိ)